သဒ္ဒါ

**အသံ**

နားဖြင့်ကြားသမျှကို အသံဟုခေါ်ပါသည်။

**သဒ္ဒ**

သဒ္ဒသည် ပါဠိစကားဖြစ်ပါသည်။ အသံဟု အဓိပ္ပာယ်ရပါသည်။

**သဒ္ဒါ**

အဓိပ္ပာယ်ရှိသော အသံကို အစွဲပြု၍ ရေးသားထားလျှင် သဒ္ဒါဟု ခေါ်ပါသည်။

**သဒ္ဒါကျမ်း**

လူတို့နှုတ်မှထွက်သော အသံများကို ဆိုလိုသည့် အဓိပ္ပာယ် ရောက်အောင် စနစ်တကျပြောဆို ရေးသားရသည်။ ထိုသို့ပြောဆိုရေးသားရာ၌ အသုံးပြုရမည့် စည်းစနစ်တို့ကို ဖော်ပြသောကျမ်းသည် သဒ္ဒါ ကျမ်းဖြစ်သည်။

**လေ့ကျင့်ခန်း**

ပေးထားသောမေးခွန်းများကိုဖြေပါ။

၁။ နားဖြင့်အာရုံခံ၍ကြားရသော အရာကို ................. ခေါ်ပါသည်။

၂။ သဒ္ဒဟူသော ပါဠိစကား၏ အဓိပ္ပာယ်မှာ ................. ဟု ဖြစ်သည်။

၃။ သဒ္ဒါကျမ်း ဆိုသည်မှာ အဘယ်နည်း။

**အက္ခရာများ**

**အက္ခရာ**

အသံများကို ကိုယ်စားပြုထားသည့် အမှတ်သင်္ကေတများကို အက္ခရာဟု ခေါ်ပါသည်။

အက္ခရာ (၂) မျိုး ရှိပါသည်။ ၎င်းတို့မှာ -

(၁) သရအက္ခရာ

(၂) ဗျည်းအက္ခရာ တို့ဖြစ်ကြသည်။

(၁) သရအက္ခရာ

မြန်မာဘာသာတွင် အခြေခံသရ(၁၁) လုံး၊ သင်ရိုးသရ(၁၂) လုံး ရှိပါသည်။

အခြေခံသရ (၁၁) လုံး

| သရအမည် | အသံထွက် | သင်္ကေတ |
|---|---|---|
| အ | အ | - |
| အာ | အာ | -ာ -ါ |
| ဣ | အိ | ◌ိ |
| ဤ | အီ | ◌ီ- |
| ဥ | အု | ◌ု |
| ဦ | အူ | ◌ူ |
| ဧ | အေ | ေ◌- |
| အဲ | အဲ | ◌ဲ |
| ဩ | အော | ေ◌-ာ၊ ေ◌-ါ |
| ဪ | အော် | ေ◌-ာ်၊ ေ◌-ါ် |
| အို | အို | ◌ို/◌ု |

(-◌ါ) မောက်ချ ( ခ ၊ ဂ ၊ င ၊ ဒ ၊ ပ ၊ ဝ ) တို့ဖြင့် တွဲရသည်။

(-◌ာ) ဝိုက်ချ - ကျန်ဗျည်းအက္ခရာများနှင့်တွဲရသည်။

သင်ရိုးသရ (၁၂)လုံး

| သရအမည် | အသံထွက် | သင်္ကေတ |
|---|---|---|
| အ | အ | - |
| အာ | အာ | -ာ -ါ |
| ဣ | အိ | ◌ိ |
| ဤ | အီ | ◌ီ |
| ဥ | အု | ◌ု |
| ဦ | အူ | ◌ူ |
| ဧ | အေ | ေ◌ |
| အဲ | အဲ | ◌ဲ |
| ဩ | အော | ေ◌◌ာ၊ ေ◌◌ါ |
| ဪ | အော် | ေ◌င် |
| အံ | အံ | ◌ံ |

| | | |
|---|---|---|
| အား | အား | ာ း၊ ါ း |

## (၂) ဗျည်းအက္ခရာ

“ က” အစ “ အ” အဆုံး (၃၃) လုံးသော အက္ခရာတိုကို ဗျည်းအက္ခရာများဟု ခေါ်ပါသည်။ မြန်မာစာရေးသားရာတွင် အသုံးပြုသော အက္ခရာစုစုပေါင်း (၄၄) လုံး ရှိပါသည်။(သရ+ဗျည်း)

၄င်းသရနှင့်ဗျည်း တို့ကို တွဲ၍ လိုအပ်သော အသံထွက်များဖြစ် ပေါ်ရန် မြန်မာစာရေးသားရာ၌ အသုံးပြုပါသည်။

ဥပမာ - - တိ ၊ ကော် ၊ ခုံ ၊ မီ ၊ ထူ ၊ ၊ နေ ၊ ပေါ ။

### လေ့ကျင့်ခန်း

၁။ “ တီ ” ဟူသော စာလုံးပေါင်းမှ သရအမည်နှင့် ဗျည်းကို ခွဲခြားပြပါ။ ၂။ 'ဩ 'သရ နှင့် 'က' ဗျည်းတို့ကို တွဲပြပါ။

### အသံပြောင်းပြသင်္ကေတများ

**အသံပြောင်းပြသင်္ကေတ**

သံရှည် ၊ သံတို ၊ သံလေး ဖြစ်ကြောင်း ပြသော သင်္ကေတ ကို အသံပြောင်းပြသင်္ကေတ ဟု ခေါ်ပါသည်။ မြန်မာစာရေးသားရာ၌ အသံပြောင်းပြသင်္ကေတ (၃) မျိုးကို အသုံးပြုပါသည်။ ၄င်းတို့မှာ -

(၁) သေးသေးတင် (-)

(၂) အောက်မြစ် (-)

(၃) ဝစ္စနှစ်လုံးပေါက် (း) တို့ ဖြစ်ကြသည်။

**၁။ သေးသေးတင် (ံ)**

ဤသင်္ကေတချည်းသက်သက် အသံထွက်အောင် ရွက်ဆို၍မရပါ။ အသံတိုသောသရများဖြစ်ကြသည့် (အ၊အိ၊အု) တို့နှင့် တွဲ၍ ရွတ်ဆိုမှသာ အသံထွက်လာသည်။

ဖော်ပြပါ သံတိုသရ (အ၊အိ၊အု)တို့ကို သံရှည်များအဖြစ် အသံပြောင်း လိုလျှင် အသံပြောင်းပြသင်္ကေတ(ခ) နှင့် တွဲရသည်။

ဥပမာ -

က + ံ = ကံ (စံ ၊ ပံ ၊ ထံ စသည်)
တိ + ံ = တိံ (အိ' စသော ပါဠိစကားလုံးများ )
ပု + ံ = ပုံ (စုံ ၊ တုံ ၊ ယုံ စသည်)

**၂။ အောက်မြစ် (-)**

ဤသင်္ကေတချည်းသက်သက် အသံထွက်အောင် ရွက်ဆို၍မရပါ။ သံရှည်သရများဖြစ်ကြသော (အေ ၊ အဲ ၊ အော ၊ အူ ၊ အို) တို့ကို လည်း ကောင်း ၊ အသံထွက်ရှည်သည့် အသတ်များဖြစ်ကြသော (-င် ၊ -ဉ် ၊ - ည် ၊ -န် ၊ -မ်) တို့ကို လည်းကောင်း အသံတိုများအဖြစ် ပြောင်းလိုလျှင် အသံပြောင်းပြ သင်္ကေတ (့) နှင့် တွဲရသည်။ (့) သည် ပိုင်ဆိုင်ခြင်းပြ သင်္ကေတ လည်းဖြစ်ပါသည်။

ဥပမာ -
အေ + ့ = အေ့ (ကျေ့ ၊ စေ့ ၊ မေ့ ၊ နေ့ စသည်)
အဲ + ့ = အဲ့ (ကဲ့ ၊ မဲ့ ၊ တဲ့ စသည် )
အော + ့ = အော့ (ကော့ ၊ တော့ ၊ ဆော့ စသည် )
အူ + ့ = အူ့(လူ့၊သူ့)
အို + ့ = အို့ (တို့၊ ကို့၊ ထို့၊ ပို့ စသည် )
အင်+ ့ = အင့် (နှင့် ၊ ဆင့် ၊ တင့် စသည် )
အဉ် + ့= အဉ့်(စဉ့်၊ ညဉ့် စသည် )
အည် + ့ = အည့် (သည့် ၊ မည့် စသည်)

အန် + ့ = အန့် (ကန့် ၊ စန့် ၊ ဟန့် စသည် )
အမ် + ့ = အမ့် (နမ့် ၊ ဝမ့် စသည် )
ပိုင်ဆိုင်ခြင်းပြပုဒ်
လူ့သဘောကို သိရန်ခက်သည် ။
ကျွန်တော့် စာအုပ် ။

**၃။ ဝစ္စနှစ်လုံးပေါက် (-)**

ဤသင်္ကေတချည်းသက်သက် အသံထွက်အောင် ရွက်ဆို၍မရပါ။ သံရှည်သရများဖြစ်ကြသော (အေ ၊ အီ ၊ အာ ၊ အူ ၊ အို) တို့ကို လည်း ကောင်း ၊

အသံထွက်ရှည်သည့် အသတ်များဖြစ်ကြသော (-င် ၊ - ၊ - ည် ၊ -န် ၊ -မ်)တို့ကိုလည်းကောင်း အသံလေးများအဖြစ် ပြောင်းလိုလျှင် အသံပြောင်းပြ သင်္ကေတ (-း) နှင့် တွဲရသည်။

ဥပမာ -

အေ + း = အေး (ဆေး ၊ စေး ၊ တေး စသည် )

အီ+ း = အီး(စီး၊ ဆီး၊ တီး စသည်)

အာ + း = အား ( စား ၊ စား ၊ ဆား စသည် )

ဘူ + း = ဘူး (စူး ၊ ဆူး ၊ တူး စသည် )

အို + း = အိုး(စိုး ၊ ဆိုး ၊ တိုး စသည် )

အင် + း = အင်း ( ကင်း ၊ စင်း ၊ ခင်း စသည် )

အဉ် + း = အဉ်း ( စဉ်း ၊ ယဉ်း စသည် )

အည် + း = အည်း ( စည်း ၊ ဆည်း ၊ တည်း စသည် )

အန် + း = အန်း ( စန်း ၊ ဆန်း ၊ တန်း စသည် )

အမ် + း = အမ်း ( စမ်း ၊ နမ်း ၊ ဖမ်း စသည် )

## ဗျည်းများတွဲစပ်ပုံ

ဗျည်း(၃၃) လုံး ရှိသည်။ ယင်းဗျည်းတို့အနက် ယ ၊ ရ ၊ ဝ ၊ ဟ ဗျည်း(၄)လုံးကို အောက်ပါသင်္ကေတအသီးသီးအဖြစ် အသွင်ပြောင်းကာ ဗျည်းအချို့နှင့် တွဲပါသည်။

| ဗျည်းအက္ခရာ | | သင်္ကေတအက္ခရာ |
|---|---|---|
| ယ | = | ျ (ယပင့်) |
| ရ | = | ြ (ယရစ်) |
| ဝ | = | ွ(ဝဆွဲ) |
| ဟ | = | ှ (ဟထိုး) |

ယပင့် ၊ ရရစ် ၊ ဝဆွဲ ၊ ဟထိုး သင်္ကေတများကို ဗျည်းအချို့နှင့် တစ်ခု ချင်းလည်း တွဲနိုင်သည်။(၂)ခု သို ့မဟုတ် (၃)ခု ပေါင်း၍လည်း တွဲနိုင် သည်။ ယင်းသင်္ကေတအသီးသီးကို ဗျည်းအချို့နှင့် တွဲခြင်းဖြင့် ဗျည်း တွဲများဖြစ်ပေါ်လာသည်။

ဥပမာ ။ ။ ကြ ၊ ကြွ ၊ ချ ၊ ချွ ၊ မြွာ ၊ မွ ၊ လှ ၊ လျှ ။

**အသတ်များ (ဝ် )**

မြန်မာစကားတွင် အသံမျိုးစုံ ရှိသည်ဖြစ်ရာ လိုအပ်သော အသံတစ်ခုကို ရနိုင်ရန်အတွက် မြန်မာဘာသာ ရေးထုံးတွင် အသတ် (၁၀)ပါးကို ရေးက တီထွင်ခဲ့ကြသည်။

လိုအပ်သောအသံတစ်ခုဆိုသည်မှာ မူလဗျည်းသံ၊သရသံ၊ဗျည်းတွဲသံ တို့နှင့်မတူသော အသံဖြစ်သည်။

အသတ် (၂) မျိုးရှိသည်။ ၎င်းတို့မှာ -

(၁) မြန်မာအသတ်

(၂) ပါဠိသက်အသတ် တို့ဖြစ်ကြသည်။

**(၁) မြန်မာအသတ်**

မြန်မာအသတ် (၁၀) ပါးရှိပါသည်။ ၎င်းတို့မှာ – က် ၊ င် ၊ စ် ၊ ဉ် ၊ ည် ၊ တ် ၊ န် ၊ ပ် ၊ မ် ၊ ယ် ။

**(၂) ပါဠိသက်အသက်**

မြန်မာတို့သည် ပါဠိဝေါဟာရများကို မြန်မာမှုပြုကာ သုံးခဲ့ကြသည်။ ပါဠိဝေါဟာရကို မြန်မာမှုပြုကာ ရေးသားခြင်းဖြင့် မြန်မာဘာသာတွင် အသတ်များ တိုးပွားလာခဲ့သည်။

ပါဠိသက်အသတ် (၂၆) ပါးရှိသည်။ ၎င်းတို ့မှာ - က် ၊ ခ် ၊ ဂ် ၊ င် ၊ စ် ၊ ဇ် ၊ ဉ် ၊ ဋ် ၊ ဌ် ၊ ဏ် ၊ တ် ၊ ထ် ၊ ဒ် ၊ ဓ် ၊ န် ၊ ပ် ၊ ဗ် ၊ ဘ် ၊ မ် ၊ ယ် ၊ ရ် ၊ လ် ၊ ဝ် ၊ သ် ၊ ဟ် ၊ ဠ် ။

**ပုဒ်ဖြတ်ပုဒ်ရပ်သင်္ကေတများ**

မြန်မာစာရေးသားရာ၌ အဓိပ္ပာယ် ရှင်းလင်းစေရန် ပုဒ်ကလေး ()၊ပုဒ်မ (။)၊ ဝိုက်ကွင်း ( ) စသော သင်္ကေတများကို အသုံးပြု၍ ရေးရသည်။

ပုဒ်ကလေး ( ၊ )

၁။ ဝါကျစာကြောင်းတွင် တစ်ခုထက်မက သုံးသော လည်းကောင်း၊ ဖြစ်စေ တို့၏ နောက်၌ ပုဒ်ကလေးကို သုံးသည်။ သို့ရာတွင် နောက်ဆုံးဖြစ်သော လည်းကောင်း၊ဖြစ်စေ တို့၏ နောက်၌မူ ပုဒ်ကလေးကို မသုံးပေ။

သာဓက ။ ။

ပင်လယ်ကမ်းစပ်တွင်လည်းကောင်း၊ သစ်ပင်ပေါ်များရာ အရပ်တွင်လည်း ကောင်း၊ ကွင်းပြင်များတွင်လည်းကောင်း လေကောင်းလေသန့်ကို ရသည်။ ဖခင်ကဖြစ်စေ၊ မိခင်ကဖြစ်စေ၊ အခြားအုပ်ထိန်းသူ တစ်ဦးဦးကဖြစ်စေ လက်မှတ်ရေးထိုးရမည်။

၂။ သို့မဟုတ်၏ ရှေ့တွင် ပုဒ်ကလေးကို သုံးသည်။

သက်ဆိုင်ရာပြည်နယ် ၊သို့မဟုတ် တိုင်းကိုယ်စားလှယ်များ ပါဝင်ရမည်။

၃။ ဝါကျတစ်ခုတွင် ကြိယာပုဒ်များကို ဆက်၍ရေးလျှင် နောက်ဆုံးကြိယာမှ တစ်ပါး ရှေ့ကြိယာများ၏ နောက်တွင် ပုဒ်ကလေးကို သုံးသည်။

သာဓက။ ။

တောင်သူလယ်သမားများသည် မိမိတို့စိုက်ပျိုးထားသော သီးနှံများရိတ် သိမ်းပြီးလျှင် လှူကြ၊ တန်းကြ၊ ကျွေးကြ၊ မွေးကြ ရိုး ဖြစ်ပါသည်။

၄။ နှစ်ခုထက်ပိုသော ပုဒ်များအကြားတွင် ပုဒ်ကလေးကိုသုံးသည်။

သာဓက ။ ။

- ကျွဲ ၊ နွား ၊ သိုး၊ ဆိတ် ၊ သမင် ၊ ဒရယ် ၊ ဆင် ၊ မျောက် တို့သည် အသီးအနှံ ၊ အရွက် ၊ သစ်ဥ ၊ သစ်ဖု တို့ကိုသာ စားသည်။ (ပုံနှိပ်ရာတွင် ပုဒ်များအကြား၌ ပုဒ်ကလေးမသုံးဘဲ နေရာချိ၍လည်း ရိုက်နှိပ်လေ့ရှိသည်။)

၅။ နှစ်ခုထက်ပိုသော ပုဒ်စုများအကြားတွင် ပုဒ်ကလေးကို သုံးသည်။

သစ်ထုတ်လုပ်ငန်းတွင် သဘာဝပေါက်ပင်များ မပျက်စီးစေရန်ကာကွယ် စောင့်ရှောက်ခြင်း ၊ သစ်တောများကို သိပ္ပံနည်းဖြင့် ပြုစုပျိုးထောင်ခြင်း ၊ စနစ်တကျ ချဲ့ထွင်စိုက်ပျိုးခြင်း စသော လုပ်ငန်းများကို ပြုလုပ်ရသည်။

၆။ ခုနှစ် ၊ လ ၊ ရက် တို့ကို တစ်တန်းတည်း စဉ်ရေးရာတွင် ပုဒ်ကလေးကိုသုံးသည်။

သာဓက ။ ။

- ၁၉၄၈ ခုနှစ် ၊ ဇန်နဝါရီလ ၊ ၄ ရက် ၊ တနင်္ဂနွေနေ့

၇။ လိပ်စာကို တစ်တန်းတည်း စဉ်ရေးရာတွင် ပုဒ်ကလေးကို သုံးသည်။

သာဓက ။

မြန်မာစာအဖွဲ့ဦးစီးဌာန ၊ ၂၇ ၊ ပြည်လမ်း ၊ ၆ မိုင်ခွဲ ၊ ရန်ကုန် ။

**ပုဒ်မ (။)**

၁။ ဝါကျ၏ အဆုံး၌ ပုဒ်မကို သုံးသည် ။

၂။ အမှတ်စဉ်ကို ဖော်ပြရာတွင် ပုဒ်မကိုသုံးသည်။

သာဓက ။ ။

အမှတ်စဉ်

၁။

၂"

၃॥

၃။ အထက်တွင် ဖော်ပြပြီးသော အကြောင်းအရာ ၊ အချက်အလက်တို့နှင့် အောက်တွင် ဆက်လက်ဖော်ပြသော အကြောင်းအရာ ၊ အချက်အလက် တို့ တူညီကြောင်းကို ပြရာ၌ ပုဒ်မကိုသုံးသည်။

သာဓက ။ ။

ဆရာ ဦးဝင်းမောင် (အဖွဲ့ဝင်)

ဦးအောင်သင်း (။)

ဦးမြလွင် (။)

ဦးရွှေတင် (။)

**ဝိုက်ကွင်း ( )**

၁။ စာပိုဒ်ခွဲအမှတ်စဉ်ကို ပြသည့် ကိန်းဂဏန်း ၊ အက္ခရာ တို့ကို ဝိုက်ကွင်း ဖြင့် ပြသည်။

သာဓက ။ ။

- သုံးပိုင်းခွဲခြားနိုင်သည်။

၎င်းတို့မှာ -

(က)---

(ခ)---

(ဂ)---

သာဓက ။ ။

သုံးပိုင်းခွဲခြားနိုင်သည်။

၄င်းတို့မှာ -

(၁)---

(၂) ---

(၃) ---

၂။ အဓိပ္ပာယ်တူကြောင်း အခြားတစ်မျိုးဖြင့် ဖော်ပြရာတွင် ပိုက်ကွင်းကို သုံး သည်။

သာဓက ။ ။

- ၉၆ ကီလိုမီတာ (မိုင်-၆၀)

- ပဲခူး (ဟံသာဝတီ)

- ၆၅၀ (ခြောက်ရာ့ငါးဆယ်)

၃။ အမည်တူ ရှိလျှင် ထိုသူများ၏ ဖခင်အမည်ကိုဖြစ်စေ ၊အလုပ်အကိုင်ကို ဖြစ်စေ ၊အရပ်ဒေသကိုဖြစ်စေ ပိုက်ကွင်းဖြင့် ပြသည် သာဓက ။ ။

- မောင်ကျော် (ဦးဘ)- မောင်ကျော် (ဦးသန်းမောင်)

- မပြုံး (မန္တလေး) ၊ မပြုံး (ပြင်ဦးလွင်)

- ဦးအောင်လှ (ကျောင်းဆရာ) ၊ ဦးအောင်လှ (ကုန်သည်)

# ဌာန်၊ ကရိုဏ်း၊ ပယတ်

**ဌာန်**

စကားသံ ဖြစ်ပေါ်ရာ နေရာကို ဌာန် ဟုခေါ်သည်။

**ကရိုဏ်**

စကားသံဖြစ်ပေါ်စေရန် အကူအညီပေးသော အသုံးခံဝတ္ထုကို ကရိုဏ်း ဟုခေါ်သည်။

**ပယတ်**

စကားသံဖြစ်ပေါ်စေရန် အားထုတ်ရွက်ဆိုမှုကို ပယတ်ဟုခေါ်သည်။

**စကားသံဖြစ်အင်္ဂါ**

စကားသံဖြစ် အင်္ဂါများကို အဓိကအားဖြင့် အောက်ပါအတိုင်း နှစ်မျိုး ပိုင်းခြားနိုင်သည်။

(က) မလှုပ်ရှားနိုင်သော စကားသံဖြစ်အင်္ဂါ

(ခ) လှုပ်ရှားနိုင်သော စကားသံဖြစ်အင်္ဂါ

(က) မလှုပ်ရှားနိုင်သော စကားသံဖြစ်အင်္ဂါ

မလှုပ်ရှားနိုင်သော စကားသံဖြစ်အင်္ဂါမှာ ဌာန်ဖြစ်သည်။ ဌာန်(၇)မျိုးရှိသည်။ ၄င်းတို့မှာ

(၁) လည်ချောင်း

(၂) အာခေါင်ပျော့

(၃) အာခေါင်မာ

(၄) အာထိပ်

(၅) သွား

(၆) အထက်နှုတ်ခမ်း

(၇) နှာခေါင်း တို့ဖြစ်ကြသည်။

**( ခ) လှုပ်ရှားနိုင်သော စကားသံဖြစ်အင်္ဂါ**

လှုပ်ရှားနိုင်သော စကားသံဖြစ်အင်္ဂါမှာ ကရိုဏ်းဖြစ်သည်။ကရိုဏ်း (၇)မျိုးရှိ သည်။ ၄င်းတို့မှာ

(၁) လျှာရင်း

(၂) လျှာနောက်

(၃) လျှာလယ်

(၄) လျှာရှေ့ (လျှာဖျားအနီး)

(၅) လျှာဖျား

(၆) အောက်နှုတ်ခမ်း

(၇) လျှာခင်

တို့ဖြစ်ကြသည်။

## လေ့ကျင့်ခန်း

အောက်ပါမေးခွန်းများကိုဖြေပါ။

၁။ ဌာန်ဆိုသည်မှာ အဘယ်နည်း။

၂။ မလှုပ်ရှားနိုင်သော စကားသံဖြစ်အင်္ဂါကို မည်သို့ခေါ်ဆိုနိုင်သနည်း။

၃။ လှုပ်ရှားနိုင်သော စကားသံဖြစ်အင်္ဂါကို မည်သို့ခေါ်ဆိုနိုင်သနည်း။

၄။ ကရိုဏ်းဆိုသည်မှာ အဘယ်နည်း။

## ဝါကျ

ဆိုလိုသည့် အဓိပ္ပာယ်ရောက်အောင် စနစ်တကျ စီးစဉ်ထားသော ပုဒ် အစုအပေါင်းကို ဝါကျဟု ခေါ်သည်။

ဝါကျတစ်ခုတွင် အနည်းဆုံး ကတ္တားတစ်ခုနှင့် ကြိယာတစ်ခု ပါဝင် သည်။

ဖွဲ့စည်းတည်ဆောက်ပုံအရ ဝါကျနှစ်မျိုးရှိသည်။ ၎င်းတို့မှာ -

(၁) ဝါကျရိုး

(၂) ဝါကျရော တို့ဖြစ်ကြသည်။

**၁။ ဝါကျရိုး**

ကတ္တားတစ်ခုနှင့် ကြိယာတစ်ခုသာ ပါဝင်သော ဝါကျကို ဝါကျ ရိုးဟု ခေါ်သည်။

သာဓက ။

- မောင်မောင် ပြေးသည်။

မောင်မောင် = ကတ္တားပုဒ်

ပြေးသည် = ကြိယာပုဒ်

-ဆရာက ပြောသည်။

ဆရာ = ကတ္တားပုဒ်
ပြောသည်= ကြိယာပုဒ်

မှတ်ချက် ။ ။ အနည်းဆုံး ကတ္တားပုဒ်တစ်ခုနှင့် ကြိယာပုဒ်တစ်ခု ပါဝင် သော ဝါကျကို အခြေခံလျက် သင့်လျော်သောပုဒ် တို့ကို ဖြည့်စွက်ပြီးလျှင် ဝါကျရိုး အမျိုးမျိုး ဖွဲ့နိုင်သည်။

**ဝါကျရိုး ဖွဲ့နည်းအမျိုးမျိုး**

ကတ္တားပုဒ် + ကြိယာပုဒ် ။
ကတ္တားပုဒ် + ကတ္တားအဖြည့်ပုဒ် + ကြိယာပုဒ်
ကတ္တားပုဒ် + ကံပုဒ် + ကြိယာပုဒ်
-ကတ္တားပုဒ် + ကံပုဒ် + ကံအဖြည့်ပုဒ် + ကြိယာပုဒ် ။
ကတ္တားပုဒ် + ထွက်ခွာရာပြပုဒ် + ကြိယာပုဒ် ။
ကတ္တားပုဒ် + ရေးရရာပြပုဒ် + ကြီး ယာပုဒ် ။
ကတ္တားပုဒ် + ဆိုက်ရောက်ရာပြပုဒ် + ကြိယာပုဒ် ။
ကတ္တားပုဒ် + ကံပုဒ် + အသုံးခံပြပုဒ် + ကြိယာပုဒ် ။
ကတ္တားပုဒ် + အကြောင်းပြပုဒ် + ကြိယာပုဒ် ။
ကတ္တားပုဒ် + ကံပုဒ် + လက်ခံပြပုဒ် + ကြိယာပုဒ် ။
ကတ္တားပုဒ် + နေရာပြပုဒ် + ကြိယာပုဒ် ။
ကတ္တားပုဒ် + အချိန်ပြပုဒ် + ကြိယာပုဒ် ။
ကတ္တားပုဒ် + ပိုင်ဆိုင်ခြင်းပြပုဒ် + ကတ္တားအဖြည့်ပုဒ် + ကြိယာပုဒ် ။
ကတ္တားပုဒ် + ကံပုဒ် + ထွက်ခွာရာပြပုဒ် + ကြိယာပုဒ် ။
ကတ္တားပုဒ် + ကံပုဒ် + ရှေ့ရှုရာပြပုဒ် + ကြိယာပုဒ် ။
ကတ္တားပုဒ် + ထွက်ခွာရာပြပုဒ် + ရှေ့ရှုရာပြပုဒ် + ကြိယာပုဒ် ။
ကတ္တားပုဒ် + ကံပုဒ် + နေရာပြပုဒ် + ကြိယာပုဒ် ။
ကတ္တားပုဒ် + ကံပုဒ် + အချိန်ပြပုဒ် + ကြိယာပုဒ် ။
- ကတ္တားပုဒ် + ထွက်ခွာရာပြပုဒ် + ရှေ့ရှုရာပြပုဒ် + အချိန်ပြပုဒ် + ကြိယာပုဒ် ။
ကတ္တားပုဒ် + ကံပုဒ် + နေရာပြပုဒ် + အချိန်ပြပုဒ် + ကြိယာပုဒ် ။
- ကတ္တားပုဒ် + လိုက်လျောပြပုဒ် + ကြိယာပုဒ် ။

ကတ္တားပုဒ် + ယှဉ်တွဲပြပုဒ် + ကြိယာပုဒ် ။
ကတ္တားပုဒ် + ခွဲထုတ်ရာပြပုဒ် + ကတ္တားအဖြည့်ပုဒ် + ကြိယာပုဒ် ။
ကတ္တားပုဒ် + ရည်စူးချက်ပြပုဒ် + ကံပုဒ် + ကြိယာပုဒ် ။
ကတ္တားပုဒ် + အချိန်ဆက်တိုက်ပြပုဒ် + ကြိယာပုဒ် ။

**၂။ ဝါကျရော**

ဝါကျရိုးနှစ်ခု ၊ သို့မဟုတ် နှစ်စုထက်ပိုသော ဝါကျရိုးများကို ဝါကျတစ်ခုတည်းဖြစ်စေရန် ဝိဘတ်၊ ပစ္စည်း၊ သမ္ဗန္ဓ တစ်ခုခုနှင့်ဆက်၍ ရေးသော ဝါကျကို ဝါကျရောဟု ခေါ်သည်။

သာဓက ။

ကို ၊ က ၊ မှာ ဝိဘတ်တို့နှင့် ဆက်ခြင်း

- မောင်မောင် ပြန်လာသည်။
-မောင်မောင်ကို ကျွန်တော်မြင်သည်။
-မောင်မောင်ပြန်လာသည် ကို ကျွန်တော်မြင်သည်။
-မပုကြွယ် ပထမဆု ရသည်။
-သူငယ်ချင်းများ အံ့အားသင့်စေသည်။
-မပုကြွယ်ပထမဆုရသည်ကသူငယ်ချင်းများအံ့အားသင့်စေသည်။
-လှလှ ဂုဏ်ထူးရမည်။
-ဤထင်မြင်ချက်သည် သေချာသည်။
-လှလှ ဂုဏ်ထူးရမည် မှာ သေချာသည်။

ဟု ၊ သော ပစ္စည်းတို့နှင့် ဆက်ခြင်း

- ကျွန်တော် စာမေးပွဲအောင်သည်။
-ဆရာက ပြောသည်။

- ကျွန်တော် စာမေးပွဲအောင်သည် ဟု ဆရာကပြောသည်။
-မြမြကျောင်းမှ ပြန်လာသည်။ .
- မြမြကို ကျွန်တော်တွေ့သည်။
- ကျောင်းမှပြန်လာ သော မြမြကို ကျွန်တော်တွေ့သည်။

သောအခါ ၊ သောကြောင့် စသည့် သမ္ဗန္ဓတို့နှင့် ဆက်ခြင်း

ဆရာ ဝင်လာသည် ။

- ကျောင်းသားများ နှုတ်ဆက်ကြသည်။

-ဆရာ ဝင်လာသောအခါ ကျောင်းသားများ နှုတ်ဆက်ကြသည်။

-မမ စာကြိုးစားသည်။

- မမ ဂုဏ်ထူးရသည်။

-မမ စာကြိုးစားသောကြောင့် ဂုဏ်ထူးရသည်။

လေ့ကျင့်ခန်း

၁။ ပေးထားသော ဝါကျစာကြောင်းများတွင် ပါဝင်သည် ပုဒ်အမျိုးအစား များကို ခွဲပြပါ။

(က) မောင်မြသည် စာအုပ်ကို ဆရာအား ပေးသည်။

(ခ) ငါးသည် ရေတွင် ပျော်၏။

(ဂ) သူသည် စာအုပ်ကို အိမ်သို့ ယူသွားသည်။

(ဃ) သစ်ရွက်တို့သည် တးပင်းလ၌ ကြွေသည်၊

(င) တရားသူကြီးသည် ခိုးမှုကို တရားရုံး၌ နံနက်က စစ်ဆေးသည်။

(စ) ဤစာအုပ်သည် မောင်မာ၏ စာအုပ် ဖြစ်သည်။

(ဆ) သူသည် ညစာကို ငါးနာရီ၌ စားသည်။

(ဇ) မလှသည် ကျောင်းမှ အိမ်သို့ နေ့လယ်က ပြန်လာသည်။

(ဈ) မောင်မြသည် ကျောင်းသား ဖြစ်သည်။

(ည) ဒေါ်ဖြူသည် ရွှေကို လက်ကောက် လုပ်သည်။

၂။ ဝိဘတ်၊ ပစ္စည်း၊ သမ္ဗန္ဓ တို့ကို အသုံးပြု၍ ဝါကျရောများကို ရေးသား

**စကားအထားအသို**

ဝါကျဖွဲ့ရာ၌ ပုဒ်အသီးသီးကို နေထားတကျ စီစဉ်ဖွဲ့စည်းရသည်။ နေထားတကျ မရှိပါက ဆိုလိုသည့် အဓိပ္ပာယ်ကို လွဲမှားတတ်ပါသည်။ ထို့ကြောင့် ဝါကျဖွဲ့ရာတွင် အောက်ပါ အချက်(၃)ချက်ကို သတိပြုရမည်။

(၁) ကတ္တားအထားအသို

(၂) နာမဝိသေသနအထားအသို

(၃) ကြိယာဝိသေသနအထားအသို

၁။ ကတ္တားအထားအသို

ကတ္တားကို ဝါကျ၏ အစ၌ဖြစ်စေ ၊ ကြိယာ၏ရှေ့၌ ကပ်လျက် ဖြစ်စေ ထားလေ့ရှိသည်။

ကတ္တားသည် အခြားပုဒ်များကြောင့် ကြိယာနှင့် ဝေးကွာနေလျှင် ဆိုလိုသည့်အဓိပ္ပာယ် လွဲမှားနေတတ်ပါသည်။ ထိုသို့သော ဝါကျများ တွင် ကတ္တားကို ကြိယာနှင့် နီးကပ်စွာ ထားရသည်။

သာဓက ။

-**မောင်ဘ** သတင်းစာကို ဖတ်သည်။

-သတင်းစာကို **မောင်ဘ** ဖတ်သည်။

-**ဆရာဝန်ကြီးက** ဆေးကိုမှန်မှန်မသောက်သည့်အတွက် လူနာများ ဆေးကိုမှန်မှန် သောက်ကြရန် သတိပေးသည်။

-ဆေးကိုမှန်မှန်မသောက်သည့်အတွက် လူနာများ ဆေးကိုမှန်မှန် သောက်ကြရန် **ဆရာဝန်ကြီး**က သတိပေးသည်။

- **အဘကြီးက** ဘောလုံးကန်၍ ခြေထောက်နာနေသဖြင့် ကျောင်းမသွားနိုင်သော မြေးငယ်ကို ဆေးလိမ်းပေးသည်။

-ဘောလုံးကန်၍ ခြေထောက်နာနေသဖြင့် ကျောင်းမသွားနိုင်သော မြေးငယ်ကို **အဘကြီးက** ဆေးလိမ်းပေးသည်။

၂။ နာမဝိသေသနအထားအသို

**သော** ပစ္စည်းပါသည့် နာမဝိသေသနကို အထူးပြုခံရမည့် နာမ် ၏ရှေ့တွင် ကပ်ထား ရသည်။

**သော၊ သည့်** ပစ္စည်းပါသော နာမဝိသေသန၊ နာမဝိသေသနအဖြစ် သုံးသည့် ဝိဘတ်ပါသော နေရာပြပုဒ်၊ အစဉ်ပြသင်္ချာနာမဝိသေသန တို့ကို အထူးပြုခံ နာမ်၏ရှေ့တွင် ကပ်၍ထားရသည်။

သာဓက ။ ။

- **ပေ(၂၀)ရှည်သော** ကလေးများ ရေကူးရန် ကန်တစ်ခုကို တူးနေ သည်။ X

- ကလေးများ ရေကူးရန် **ပေ(၂၀)ရှည်သော** ကန်တစ်ခုကို တူးနေ သည်။ ✓

-ကျွန်တော်သည် **ကြောင်အိမ်ထဲက** အစ်ကိုကြီးအား ငါးကြော်တစ် ကောင်ကို ပေးလိုက်ပါသည်။ X

-ကျွန်တော်သည် **ကြောင်အိမ်ထဲက** ငါးကြော်တစ်ကောင်ကို အစ်ကိုကြီးအား ပေးလိုက်ပါသည်။ ✓

- **ငါးကြိမ်မြောက်** မသန်စွမ်းသူများ၏ အားကစား ပြိုင်ပွဲကို ယနေ့ ကျင်းပသည်။ X

- မသန်စွမ်းသူများ၏ **ငါးကြိမ်မြောက်** အားကစားပြိုင်ပွဲကို ယနေ့ ကျင်းပသည်။ ✓

၃။ ကြိယာဝိသေသနအထားအသို

ကြိယာဝိသေသ ကို ကြိယာ၏ ရှေ့တွင် ထားလေ့ရှိသည်။ ကြိယာဝိသေသနအဖြစ်သုံးသော က ဝိဘတ်ပါသည့် အချိန်ပြပုဒ်နှင့် နေရာပြပုဒ်၊ တွင် ဝိဘတ်ပါသည့် နေရာပြပုဒ်၊ နှင့် ဝဲဘတ်ပါသည့် အ သုံးခံပြပုဒ်၊ စွာ ပစ္စည်းပါသည့် ကြိယာဝိသေသနပုဒ်တို့ကို ကြိယာ၏ ရှေ့တွင် ကပ်၍ ထားရသည်။

သာဓက ။

- သူသည် ဈေးမှ အမြန် ပြန်လာသည်။ ✓

-မလှသည် မနေ့က ပေါင်မုန့်ကို စားသည်။ x

-မလှသည် ပေါင်မုန့်ကို မနေ့က စားသည်။✓

-စာသင်ခန်းတွင် လိမ်မပြောရန် တပည့်များကို ဆရာက ဆုံးမသည်။ x

-လိမ်မပြောရန် တပည့်များကို ဆရာက စာသင်ခန်းတွင် ဆုံးမသည်။✓

-မောင်ဘက တုတ်နှင့် မောင်လှကို ရိုက်သည်။

-မောင်ဘက မောင်လှက် တုတ်နှင့် ရိုက်သည်။✓

- သူသည် လျင်မြန်စွာ စက်ဘီးကို စီးသည်။ x

- သူသည် စက်ဘီးကို လျင်မြန်စွာ စီးသည်။✓

လေ့ကျင်ခန်း

ပေးထားသော ဝါကျစာကြောင်းများကို ပုဒ်အထားအသို စိစစ် ပြင်ဆင်ပါ။

(က) ဖိုးသာအောင်က တွေ့ရာကို ချိုဖြင့် လိုက်လံခတ်ကာ ရွာသားများကို အနှောင့်အယှက်ပေးနေသော ကျွဲရိုင်းကို ဖမ်းဆီးလိုက်သည်။

(ခ) ဆရာဝန်ကြီးများက ဆေးလိပ်ကို အလွန်အကျွံ သောက်၍ အဆုတ်ရော ဂါ ဖြစ်ကြသဖြင့် ဆေးလိပ်ကို မသောက်ကြရန် တားမြစ်ကြသည်။

(ဂ) ဒိုင်လူကြီးက ကြမ်းတမ်းစွာ ကစားသည့်အပြင် ပြိုင်ဘက် ကစားသမား များကို ဆဲဆိုရန်စတတ်သော ဘောလုံးသမား ဖိုးတုတ်ကို ပြင်းထန်စွာ သတိပေးလိုက်သည်။

(ဃ) ပေ(၃၀၀) မြင့်သော ပန်းသီးပင်များ စိုက်ပျိုးရန် တောင်တန်းတစ်ခုကို သက်ဆိုင်ရာက ရှာဖွေနေသည်။

(င)ကျွန်တော်သည် မော်လမြိုင်က ဆရာ့ကို ဒူးရင်းသီးဖြင့် ကန်တော့သည်။

(စ) (၁၀)ကြိမ်မြောက် ရပ်ကွက်လူငယ်များ စာကြည့်တိုက်၏ စာပေဟော ပြောပွဲကို ယခုနှစ်တွင် ကျင်းပမည်။

(ဃ) မလှသည် မမြအား ယမန်နှသ်က ဇင်ပန်းများကိုလက်ဆောင်အဖြစ်ပေးသည်။ (ဇ) ကျွန်တော်သည် သစ်ပင်ပေါ်က လယ်ကွင်းများကို လှမ်းမြင်ရသည်။

(ဈ) အိမ်တွင် မြန်မာ့ယဉ်ကျေးမှုကို အစဉ်ထိန်းသိမ်းရမည်ဟု မိဘနှစ်ပါးက သင်ကြားသည်။

(ည) မမသည် အပ်ချည်နှင့် ခရေပွင့်များကို သီသည်။

(ဋ) ဘင်ခရာအဖွဲ့က တေးသီချင်းများကို အောင်မြင်စွာ သီဆို တီးမှုတ်၍ အခမ်းအနားကို ရုတ်သိမ်းလိုက်သည်။

(ဈ) အေးမြသော တောင်တက်သမားများသည် နံနက်စောစာတွင် တောင် ထိပ်ပေါ်သို့ တက်ကြသည်။

(ဍ) မကြာခဏ ဆရာ၏ ဆုံးမပြောဆိုမှုကြောင့် စာကြိုးစားသည်။

(ဎ) အမျိုးသမီးတို့သည် ပန်းကို နှစ်သက်မြတ်နိုးစွာ မိမိတို့ ဦးခေါင်းထက် တွင် ပန်ဆင်ကြသည်။

(ဏ) ဤကောလိပ်၌ အယဉ်ကျေးဆုံး မနှင်းဆီသည် ကျောင်းသူဖြစ်သည်

(တ) သူ၏ ကားနှင့် လူနာကို ဆေးရုံသို့ အမြန်ဆုံး ပို့လိုက်သည်။

(ထ) ရွာထိပ်က လုံမပျိုတို့သည် ရေကန်မှ ရေခပ်ပြီး ရွာတွင်းသို့ ပြန်လာ ကြသည်။

(ဒ) လွတ်လပ်ရေးနေ့ စာပေပြိုင်း ယမန်နေ့က ဆုရသူများ စာရင်းကို ကြေညာသည်။

(ခ) စပါးများ အချိန်မီ အမိုးအကာအောက်သို့ ရောက်ရှိရေးအတွက် စနစ် တကျ ဆောင်ရွက်ကြသည်။

(န) မောင်ကြာဖြူက သူရရှိသော ဆုတံဆိပ်များကို ဗီရိုထဲမှ ကျွန်တော့်အား ထုတ်ပြသည်။

(ပ) အမြတ်တနိုး သူပေးသော လက်ဆောင်ကို ကျွန်တော် သိမ်းထားသည်။

(ဖ) စိတ်လိုက်မာန်ပါ ဒေါသကို မချုပ်တည်းဘဲ ပြောဆိုမှုခြင်းသည် အကျိုးမဖြစ်စေဘဲ အဆိုးသာ ဖြစ်စေသည်။

## မှတ်သားသိဖွယ်

တစ်သင်းမှတ်ကြ ၊ လူထိုမျှတို့
သိပ္ပကိုမူ ၊ နည်းသည် ဟူ၍
မအောက်မေ့နှင့်။
တွေ့ရာမှတ်သား ၊ မိုးပေါက်များသော်
အင်နားချောင်းကန် ၊ ပြည့်သာဟန်တည်။
မှတ်ရန်တစ်ခု
နှုတ်မှုလက်မှု ၊ အတတ်စုကို
ငယ်နုသောအား ၊ မမေ့ငြားနှင့်။
ရင်းဖျားကုန်စင် ၊ တတ်မြော်မြင်က
တစ်ခုမျှလျက်
အသက်မွေးကြောင်း ၊ ဖြစ်တုံရှောင်း၏
အပေါင်းမှတ်ရာ
တောင်တိုင်းမှာကား ၊ ပတ္တမြားမရှိ
ကြီးဘိစွမ်းအင်
ဆင်ဟူသမျှ ၊ မရမြဲတေ
တောတိုင်းဖွေလည်း
ညှာရွှေစန္ဒကူး ၊ မရှိဖူးတည့်။
ဝေးကျူးနှံ့စပ် ၊ အရပ်တို့မှာ
ပညာရှိကား ၊ အလွန်ရှား၏
မှတ်သားသိဖွယ် အလင်းတည်း။

## လေ့ကျင့်ခန်း

၁။ ကဗျာ၏ ဆိုလိုရင်းကိုရှင်းပါ ၊
၂။ အထက်ပါကဗျာ၏ ဆိုလိုရင်းကို မှတ်ချက်ပေးပါ ။

## ဆယ့်နှစ်ရာသီမိုး

တန်ခူးမည်မှတ် ဖက်ဆွတ်ရေတိုး သင်္ကြန်မိုး။
ကဆုန်အတွင်း မြေသင်းပျံ့ပျံ့ မို့နံ့နံ့။
နယုန်မိုးသေး မြက်သားမွေး ။
ဝါဆိုလပြောင်း မိကျောင်းဖွေးဖွေး မိုးအေးအေး ။
ဝါခေါင်တစ်ကြောင်း ထနောင်းကြောင်ကျစ် ဆူးရစ်ပွင့်ကာ မိုးမရွာ
ရွာပါသော်လည်း မိုးမသည်း။
တော်သလင်းတိမ်ညို စားဖိုသည်ဆင်းရဲ မိုးမစဲ ။
သီတင်းကျွတ်တွင် ပလ္လင်ဆေးမိုး ရွာသွန်းဖြိုး ။
တန်ဆောင်မုန်းတွင်း ဆီးနှင်းတစ်ပြိုက် မိုးတစ်လိုက် ။
နတ်တော်ရောက်ငြား မိုးသားမငြီး ဆင်ရာတိမ် ။
ပြာသိုချမ်းပြင်း ဆီးနှင်းရောယှက် နှမ်းပုံပျက် ။
တပို့တွဲ နွှဲ၍ရွာခြင်း သန်မိုးကြွင်း ။
တပေါင်းလည်းကူး မိုးသားကျူး။

## လေ့ကျင့်ခန်း

၁။ တစ်နှစ်တွင်ရှိသော မြန်မာလများ၏ အမည်များကို အစဉ်လိုက်ဖော်ပြပါ၊
၂။ ရက်(၃၀) အပြည့်ရှိသော လများကို ဖော်ပြပါ။
၃။ (၂၉)ရက်သာရှိသော လအရေတွက် မည်မျှရှိသနည်း။၄င်းတို့ကိုဖော်ပြပါ
၄။ သုံးနှစ်လျင် တစ်ကြိမ် နှစ်ခေါက်ထပ်သော လအမည်ကို ဖော်ပြပါ။

## လူကောင်းလူမွန်

ကျယ်မြင်နဲ့သိ ၊ ပညာရှိမူ
ကဝိပျူငှာ ၊ ဆန်းဂါတာနှင့်
ကဗျာသံချို ဖွဲ့ဆိုခြင်းလျှင်
တန်ဆာဆင်၏။
နှုတ်မင်္ဂလာ ၊ စကားမှာကား
အသာအချို့ ၊ သူ့နားလိုအောင်
မိန့်ဆိုခြင်းလျှင် ၊ တန်ဆာဆင်၏။
သန့်စင်ကြည်ဖြူ ၊ ကိုယ်ကိုမူလည်း
ဆံမြူခြမ်းမျှ ၊ ဒေါသမသင့်
အကျင့်သီတင်း၊ ကောင်းခြင်းသည်လျှင်
တန်ဆာဆင်၏။

## ခက်ဆစ်

၁။ ကဝိ = စာဆို ( ပညာရှိ
၂။ ပျူငှာ = ဖော်ရွေသည်။
၃။ ဆန်း = ပါဠိဂါထာဖွဲ့ဆိုနည်းအတတ် ။
၄။ ဂါထာ = ဆန်းကျမ်းတွင် ပြဆိုထားသော စည်းကမ်းတို ့နှင့်အညီ ရေးစီသော
၅။ သီတင်း = အကျင့်သီလ။
လေ့ကျင့်ခန်း
၁။ ကဗျာ၏ ဆိုလိုရင်းကို ရှင်းပါ
၂။ အထက်ပါကဗျာ၏ ဆိုလိုရင်းကို မှတ်ချက်ပေးပါ။

ဆုံးမစာ

ဟုတ်သောအကြံ မှန်သောအကျင့်
သင့်သောအယူ ၊ ဖြူသောနှလုံး
သူတော်ထုံးကို ၊ စွဲသုံးသောထွေ မှန်လှစေ။
ကျိုးကြောင်းစကား ၊ ပြောဆိုငြားသော်
လျင်လျားဆွေးနွေး ၊ ဆိုရေးလိမ္မာ
ပညာရှိအား ၊ ကိုယ်တိုင်သွား၍
စကားလိုက်လျော ၊ စစပြော၍
နှီးနှောလေ။
ငါ၏စိတ်တွင်
ထင်၏မလွဲ ၊ လိပ်ခဲတည်းလည်း
ဟုတ်တည်းဧကန် ၊ အာမသန်နှင့်
မှန်သည်တစေ ၊ မရှိချေ။
မှတ်ဖွယ်မှတ်ရာ ၊ ထိုထိုစာထို
ရှာ၍မပြတ် ၊ အိမ်တွင်ဖတ်၊
ဖတ်ပြန်သော်ကား ၊ ဖတ်ဖန်များက
သားမယားပင်
သိမြင်ကင်းကွာ ၊ မလိမ္မာလည်း
စာပေစကား ၊ နေ့တိုင်းကြားက
ထူးခြားလိမ္မာ ၊ ရှိသည်သာတည့်။
ရင်ဝယ်ဖြစ်ငြား ၊ မွေးသည့်သားကို
မယ်ဘွားမိခင် ၊ ဆုံးမသင်သို့
အကြင်ဆရာ ၊ တို့သူငါကို
လိမ္မာစေကြောင်း ၊ ကောင်းပါစေလို
ဆိုပါသမျှ ၊ ဩဝါဒကို
နားမျှမထောင် ၊ မကြားယောင်သို့
မောင်တို့ပြုက ၊ ယခုပစ္စုပ္ပန်

နောင်သံသရာ ၊ ဆက်များစွာ၌
ချမ်းသာမည်ရေး ၊ အလွန်ဝေးသည်
သေဘေးမလွဲ ၊ ဝဋ္ဋဆင်းရဲမှ
ရွှေခဲဘယ့်နှယ် ၊ အသွယ်သွယ်ကို
လွှဲဖယ်ကြံစည် ၊ လွတ်ပါမည်။

ရှင်မဟာရဋ္ဌသာရ

ခက်ဆစ်

၁။ ထုံး = လိုက်စံပြုစရာနည်းလမ်း ၊ အစဉ်အလာ ။
၂။ လျှင်လျှား = အလျင်အမြန် ။
၃။ နှီးနှော = ဆွေးနွေးသည်။ တိုင်ပင်သည်။
၄။ လိပ်ခဲတည်းလည်း = စွဲမိစွဲရာကိုမလွှတ်ဘဲ မြဲစွာတွယ်တာသောအားဖြင့် ၊
၅။ တစေ = အမြဲ
၆။ သံသရာ = အဖန်တလဲလဲမပြတ် ကျင်လည်ရာ ဘဝအစဉ်။
၇။ ဝဋ္ဋ = ပြုခဲ့မိသာ မကောင်းမှုအကျိုးကို ခံရခြင်း၊
၈။ ရွှေခဲ = ရွှေတုံးရွှေခဲကဲ့သို့ မြတ်နိုးဖွယ်သောသား။

လေ့ကျင့်ခန်း

၁။ "မှတ်ဖွယ်မှတ်ရာ - - - - - - - ထူးခြားလိမ္မာရှိသည်သာတည့်" ဟူသော အဖွဲ့၏ ဆိုလိုရင်းကို ရှင်းပါ။
၂။ "ရင်ဝယ်ဖြစ်ငြား - - - - လွှဲဖယ်ကြံစည် လွတ်ပါမည်" ဟူသော အဖွဲ့၏ ဆိုလိုရင်းကို ရှင်းပါ။
၃။ ဆုံးမစာကဗျာ၏ ဆိုလိုရင်းကို မှတ်ချက်ပေးပါ။

လောကသာရ

အသက်ရှည်စွာ ၊ အနာမဲ့ကြောင်း

ကောင်းလှစေချင်

ပွဲ့ပြင်နိစ္စ ၊ ကွပ်ဆုံးမသား

မိဘဆရာ ၊ စကားနာ၍

ကျမ်းစာသိမြင် ၊ တတ်အောင်သင်လော့ ။

ပေါ်လွင်မပြု ၊ ကောင်းရာတုလျက်

ကောင်းမှုမြတ်နိုး ၊ ကောင်းအောင်ကြိုး၍

ကောင်းကျိုးကိုယ်၌ တည်စေမင်း ။

ရခိုင်သူမြတ်

ခက်ဆစ်

၁ ။ ပွဲ့ပြင် = ဆုံးမသည်။ သွန်သင်သည်။ ဖြောင့်မှန်ကောင်းမွန်အောင် လုပ်သည် ။

၂။ နိစ္စ = အမြဲ

၃။ ကွပ် = ဆုံးမပွဲ့ပြင်သည်။ လိမ္မာအောင်လုပ်သည်။

၄။ ပေါ်လွင် = ပေါ့ဆသည်။ ဘာကိုမှ ဂရုမစိုက်။

**လေ့ကျင့်ခန်း**

၁။ ကဗျာ၏ ဆိုလိုရင်းကိုရှင်းပါ။

၂။ အထက်ပါကဗျာ၏ ဆိုလိုရင်းကို မှတ်ချက်ပေးပါ။

## အမေ

မိုးယံမှာကြယ်တစ်ပွင့် ပြုံးဝင့်စိန်သဖွယ်။
 ဝင်းလက်လှတယ် ၊ မိုးပေါ်ကကြယ်
 မထယ်လားမောင်မေး
သားတော်မောင် သူ့မျက်လုံးနဲ့ ၊ ပြိုင်အုံး တဲ့လေး
 လစန္ဒာငွေရည်မှုန်းလို့ ၊ အပြုံးနဲ့ သူကြိုဆို
 နူးညွတ်ဖွယ်ကို၊ လဝန်းပျို မချိုလားမောင်မေး
 သားမျက်နှာ ချိုချိုပြုံးနဲ့ ၊ ပြိုင်အုံးတဲ့လေး ။
လရောင်နဲ့ကြယ်ရောင် ၊ ငွေနှင်းရည်မြလွှာထက်က
 ဝင်းလက်ပုံဆောင်
နှင်းငွေဥရောင် ၊ မပြောင်လားမောင်မေး
သားလူညို သူငိုတုန်းကို ၊ ပြိုင်အုံးတဲ့လေး ။

ငွေတာရီ

### ခက်ဆစ်

၁။ ထယ် = ထည်ဝါသည်။
၂။ စန္ဒာ = လ
၃။ ငွေရည်မှုန်း = ငွေရောင်ခြယ်သည်။

### လေ့ကျင့်ခန်း

၁။ ကဗျာ၏ ဆိုလိုရင်းကိုရှင်းပါ။
၂။ အထက်ပါကဗျာ၏ ဆိုလိုရင်းကို မှတ်ချက်ပေးပါ။

ဆုံးမစာ

လက်သစ်တောင်တာ

ယူဇနာပေါင်း ၊ တာပြန်လောင်းသော်

ရှစ်သောင်းလေးထောင် ၊ အမြင့်ဆောင်သား

တောင်မြင်းမိုရ်ရှိ ၊ ဂုဏ်ကြီးဘိသည်

မွေးမိဖခင် ၊ ကျေးဇူးရှင်နှင့်

ထို့ပြင်တခြား ၊ ဘိုးနှင့်ဘွားကို

အစားအဝတ် ၊ မလွတ်စေရ

ရေပူရေအေး ၊ လိုရာပေး၍

မွေးကျွေးကြပေ ၊ တစ်ထွေမှတ်သား

အခါးအချို ၊ သူတို့ဆိုလည်း

ဘိုးဘွားမိဘ ၊ ဆရာစသည်

ပြသဆိုထွေ ၊ မျိုတတ်စေ။

အစ်ကိုကြီးအား ၊ ညီငယ်များလည်း

စကားနှုတ်ဆက် ၊ ဖက်၍မဆို

ရိုသေလှစေ

ကိုကြီးအစ်မ ၊ သည်နှစ်ဝကို

မိဘကဲ့သို့ ၊ မှတ်ပါလေ။

ဆွေကြီးမျိုးကြီး

အဘကြီးနှင့် ၊ ဦးရီးသားချင်း

ဘထွေးရင်းက ၊ ဟူသမျှကို

ဂုဏဝုမှ ၊ ပစာယန

စိတ်ကသိစေ ၊ ပြစ်မှားမိကမသင့်ချေ။

သေတူရှင်ဖက် ၊ ဆောင်ရွက်မကင်း

အချင်းချင်းတွင် ၊ အခင်းကြီးငယ်

ရှိခါဝယ်လည်း ၊ မဖယ်မသွေ

ညီညာကုန်း၍ ၊ ရုန်းကြလေ။
တစ်ယောက်စကား ၊ တစ်ယောက်နားမှာ
မခါးရအောင် ၊ သတိဆောင်၍
မောင်တို့ဆိုလေ ၊ ပျားသကာသို့ ချိုလှစေ။
မတွေ့ခိုက်ရန် မကျူးလွန်နှင့်
မျက်မာန်ဒေါသ ၊ မထွက်ရအောင်
မာန်မာနကို ၊ ချုပ်ကြလေ။
သေနှင့်အရက် ၊ စီးပွားဖျက်ကို
တစ်စက်ကယ်မျှ ၊ မသောက်ကြနှင့်
ရှောင်ကြပါလေ ၊ ရှင်တော်ဟောသည့် အဆိပ်ရေ။
ကိုယ်နှင့်လည်းစာ ၊ သတ္တဝါကို
ကြင်နာလှစေ ၊ သူ့အသက်ကို ချစ်ပါလေ။

ရှင်မဟာရဋ္ဌသာရ

ခက်ဆစ်

၁။ လက်သစ် = လက်ချောင်းတစ်ချောင်း၏ ဖြက်ပမာဏ (တစ်မိုက်၏ ရှစ်ပုံတစ်ပုံ)
၂။ တာ = အလျား၊အနံ စသည်တို့ကို တိုင်းတာသည်။
၃။ ယူဇနာ = ခရီးအကွာအဝေး အတိုင်းအတာ (၁၂.၇၂ မိုင်)
၄။ ဂုဏဝုမ္မ = ဂုဏ်အားဖြင့် ကြီးမြတ်သူ။
၅။ ပစာယန = အရိုအသေပြုမှု။
၆။ အခင်းကြီးငယ် = အရေးကိစ္စကြီးငယ်။

လေ့ကျင့်ခန်း

၁။ ကဗျာ၏ ဆိုလိုရင်းကိုရှင်းပါ။
၂။ အထက်ပါကဗျာ၏ ဆိုလိုရင်းကို မှတ်ချက်ပေးပါ။

## လတပေါင်း

ရှစ်ခွင်တိုင်း ၊ မွန်မှိုးတဲ့ပတ်လည်
သဇင်ကြွင်းငယ်နှင့် ၊ အင်ကြင်းသန္တာညွန့်ငယ်ဘိ
 ဖူးကွန့်ကိုက်စည်။
ဘမရာ ရွှေပိတုန်းငယ်တို့ ၊ ခြေသုံးကြဝတ်ရည်
 ညွတ်ကြည်ဖွယ့်ဖော်လဲ။
ယင်းသည့်နေ့ဆိုင် ရသေ့သူတော်တိုင်မှ
ဥာဏ်မခိုင်စျာန်ယိုင်လျှောရတယ်
 ရာသီတွင် စာညီပြော
ကျော၍သာမြဲ။

ခက်ဆစ်

၁။ သန္တာညွန့် = သန္တာကျောက်ကဲ့သို့ နီမြန်းသော အညန့်
၂။ ဘမရာ = ပိတုန်း
၃။ ညွတ်ကြည် = တိမ်းညွတ်ကြည်နူးဖွယ်
၄။ စျာန် = မြေလျှိုး ပျံနိုင်ခြင်း စသော အစွမ်းသတ္တိ
၅။ ကျော = သူတစ်ပါးလက်ကျော်လွန်ပိုကဲသည်။

## လေ့ကျင့်ခန်း

၁။ ကဗျာ၏ ဆိုလိုရင်းကိုရှင်းပါ။
၂။ အထက်ပါကဗျာ၏ ဆိုလိုရင်းကို မှတ်ချက်ပေးပါ။

## ဝဂ် ၊ အဝဂ် ၊ ဝဂ္ဂန္တ ဗျည်းများ

ဝဂ်ဗျည်း

ဝဂ္ဂ - ဝဂ် = အစု

ဌာန်တူရာတူရာ စုဖွဲ့ထားသော ဗျည်းများကို ဝဂ်ဗျည်းဟု ခေါ်ပါ သည်။ ဝဂ်ဗျည်း (၂၅) လုံး ရှိပါသည်။

အဝဂ်ဗျည်း

အဝဂ္ဂ - အဝဂ် = အစုမဟုတ်

ဗျည်းတစ်ချို့သည် အသံဖြစ်သောနေရာ (ဌာန်) မတူညီကြသဖြင့် အစုဖွဲ့၍ မရပါ။ ထိုအစုဖွဲ့၍ မရသောဗျည်းများကို အဝဂ်ဗျည်းများဟု ခေါ် ပါသည်။ အဝဂ်ဗျည်း (၈) လုံး ရှိပါသည်။

ဝဂ္ဂန္တဗျည်း

ဝဂ္ဂန္တ= အစု၏အဆုံး

ဌာန်တူရာ စုဖွဲ့ထားသော ဝဂ်ဗျည်းများ၏ အဆုံးတွင်ရှိသော ဗျည်း များကို ဝဂ္ဂန္တဗျည်များဟု ခေါ်ပါသည်။ ဝဂ္ဂန္တဗျည်း (၅) လုံး ရှိပါသည်။

| | | | | | | |
|---|---|---|---|---|---|---|
| | | | | | ဝဂ္ဂန္တဗျည်း | |
| က - ဝဂ် | က | ခ | ဂ | ဃ | င | |
| စ - ဝဂ် | စ | ဆ | ဇ | ဈ | ည | |
| ဋ - ဝဂ် | ဋ | ဌ | ဍ | ဎ | ဏ | ဝဂ်ဗျည်း |
| တ - ဝဂ် | တ | ထ | ဒ | ဓ | န | |
| ပ - ဝဂ် | ပ | ဖ | ဗ | ဘ | မ | |
| | ယ | ရ | လ | ဝ | သ | အဝဂ်ဗျည်း |
| | | ဟ | ဠ | အ | | |

ဗျည်းအက္ခရာ (၄) မျိုး

ဗျည်းအက္ခရာတို့ပါ ရွတ်ဆိုရသော ပင်ကိုယ်သံ ပြင်းမှု၊ မပြင်းမှု ၊ လျော့မှု၊ တင်းမှု တို့ကို အခြေခံ၍ ဗျည်းအက္ခရာတို့ကို (၄) မျိုးခွဲခြားနိုင်သည်။

၄င်းတို့မှာ -

(၁) အသံပြင်းပြင်းရွတ်ဆိုရော (ဃောသအက္ခရာ)

(၂) အသံမပြင်း(သံညင်း)ရွတ်ဆိုရသော (အဃောသအက္ခ)

(၃)အသံတင်းတင်းရွတ်ဆိုရသော (ဓနိဗာအက္ခရာ)

(၄) အသံလျော့လျော့ရွတ်ဆိုရသော (သိထိလအက္ခရာ) တို့ဖြစ်ပါသည်။

| | အဃောဟ | | ဃောသ | | |
|---|---|---|---|---|---|
| | သိထိလ | ဓနိတ | သိထိလ | ဓနိတ | သိထိလ |
| က - ဝဂ် | က | ခ | ဂ | ဃ | င |
| စ - ဝဂ် | စ | ဆ | ဇ | ဈ | ည |
| ဋ - ဝဂ် | ဋ | ဌ | ဍ | ဎ | ဏ |
| တ - ဝဂ် | တ | ထ | ဒ | ဓ | န |
| ပ - ဝဂ် | ပ | ဖ | ဗ | ဘ | မ |
| က - ဝဂ် | က | ခ | ဂ | ဃ | င |

ဝဂ်ဗျည်းဇယား၏ ဗျည်းအက္ခရာလေးမျိုး

| ဃောသ | အဃောသ |
|---|---|
| ယ ရ လ ဝ ဟ ဠ အ | သ |

အဝဂ်ဗျည်းဇယား၏ ဗျည်းအက္ခရာနှစ်မျိုး

မှတ်ချက်။ ။ အဝဂ်ဗျည်းများမှာ ဌာန်မတူသောကြောင့် သိထိလ ၊ ဓနိတ ခွဲခြားရန် မလိုပါ။

## ပါဌ်ဆင့် ရေးနည်း

အက္ခရာနှစ်လုံးဆင့်၍ ရေးထားသော အက္ခရာတွဲ့ကို ပါဌ်ဆင့် ဟုခေါ်ပါသည်။

ပါဌ်ဆင့်ရေးနည်းကို -

၁။ မြန်မာစာပါဌ်ဆင့် ရေးနည်း

၂။ ပါဠိပါဌ်ဆင့် ရေးနည်း ဟူ၍ နှစ်မျိုး လေ့လာနိုင်သည်။

### ၁။ မြန်မာစာပါဌ်ဆင့် ရေးနည်း

ရှေးခေတ်မြန်မာတို့သည် ပါဠိစာပေနှင့် ရင်းနှီးခဲ့ကြသဖြင့် ပါဠိ စကား လုံးများကို ကြားညှပ်ပြောဆိုခြင်း၊ ရေးသားခြင်းများ ပြုလုပ်လာခဲ့ကြသည်။ ပါဠိပါဌ်ဆင့်များကို အတုယူ၍ မြန်မာစာ နှစ်လုံးဆင့် ရေးနည်းများကို ပြုလာခဲ့သည်။ ထိုသို့ ရေးသားခဲ့ကြသော မြန်မာ ဝေါဟာရများ အနက် အချို့ကို လက်ခံသုံးစွဲခြင်း မပြုတော့ချေ ။

အောက်တွင် ဖော်ပြထားသော မြန်မာဝေါဟာရ နှစ်လုံးဆင့် ရေးပုံ များကို ဤခေတ်၌ ဆက်လက် အသုံးပြုလျက်ပင် ရှိကြသေးသည်။

ယောက္ခမ

လက္ခဏ

လက်ျာ

လိမ္မော်

သေတ္တာ

ပတ္တာ

စက္ကူ စသည်တို့ ဖြစ်ပါသည်။

### ၂။ ပါဠိပါဌ်ဆင့် ရေးနည်း

ပါဠိပါဠိဆင် နည်းတွင် -

(က) အက္ခရာတူ နှစ်လုံးဆင့်ရေးနည်း

( ခ) အက္ခရာကို နှစ်လုံးဆင့်နည်း ဟူ၍ နှစ်မျိုးရှိသည်။

(က) အက္ခရာတူ နှစ်လုံးဆင့်နည်း အက္ခရာတူ နှစ်လုံးဆင့် နိုင်သော ဗျည်းများ - - ဝဂ်ဗျည်းဇယားတွင် သိထိလအက္ခရာများကို ‘င’ မှ တစ်ပါး အခြား သော အက္ခရာများ အတူဆင့်နိုင်သည်။

အဝဂ်ဗျည်းဇယားတွင် 'ယ ၊ လ ၊ သ တို့ကိုသာ အတူဆင့်နိုင်သည်။

သာဓက ။

က္က = တက္ကသိုလ် ၊ ဥက္ကဋ္ဌ

ဂ္ဂ= ပုဂ္ဂိုလ် ၊ မဂ္ဂင်

စ္စ= နိစ္စ ၊ သစ္စာ

ဇ္ဇ= အဝိဇ္ဇာ

ည= ပညာ၊ မညမည

ဋ္ဋ = ဝဋ္ဋ

ဍ္ဍ = ခိဍ္ဍ

ဏ္ဏ = ပဏ္ဏာ၊ အဏ္ဏဝါ

တ္တ = သတ္တဝါ၊ သတ္တိ

ဒ္ဒ = သဒ္ဒါ၊ သမုဒ္ဒရာ

န္န = သန္နိဋ္ဌာန်

ပ္ပ = သပ္ပာယ်၊ ကပ္ပိယ

ဗ္ဗ = နိဗ္ဗာန်၊ ဒိဗ္ဗာန်၊ ဒိဗ္ဗစက္ခု

မ္မ = ဓမ္မ၊ ကမ္မကဋ္ဌာန်း

ယျ = ဓေယျ

လ္လ = ဒုလ္လဘ၊ သလ္လာဝတီ

ဿ = မနုဿ၊ ဝဿာန်

(ခ) အက္ခရာကွဲ နှစ်လုံးဆင့်နည်း

အက္ခရာကွဲ နှစ်လုံးဆင့်ရာတွင် ဃောသအချင်း ၊ အဃောသအချင်းချင်း ဆင့်ရသည်။

-ဓနိတအက္ခရာကို အောက်တွင်ထား၍ သိထိလအက္ခရာကို အပေါ်က ဆင့်ရသည်။

-ဝဂ္ဂန္တဗျည်းများကို ၎င်းတို့နှင့် ဝဂ်တူသော ကျန်အက္ခရာ လေးလုံးတို့၏ အပေါ်တွင် ဆင့်နိုင်သည်။

မှတ်ချက် ။ ။ အက္ခရာများအားလုံး ဝဂ်တူမှသာလျှင်ဆင့်ရသည်။ ဝဂ်မတူက လုံးဝမဆင့်ရ။

သာဓက ။ ။

က + ခ = က္ခ = နက္ခတ် ၊ နိက္ခမ ၊ စက္ခု

စ+ဆ= ပုစ္ဆာ ၊ တိစ္ဆာန်

ဋ+ ဌ = ဋ္ဌ=ဒိဋ္ဌ၊ အဓိဋ္ဌာန်

တ+ထ=တ္ထ=ဝတ္ထု ၊ ဣတ္ထိလိင်

ပ+ဖ= ပ္ဖ= ဇာတိပ္ဖိုလ်

ဂ+ ဃ=ဂ္ဃ= အနဂ္ဃ

ဇ + ဈ = ဇ္ဈ = မဇ္ဈိမ

ဍ+ ဎ = ဍ္ဎ = ဂုဏဝုခ ၊ အာယုဝဍ္ဎန

ဒ+ဓ = သိဒ္ဓိ ၊ သဒ္ဓါ

ဗ+ ဘ = ဗ္ဘ = အဗ္ဘ န္တရ

'င' ကို ၎င်းနှင့် ဝင်လာသော ဗျည်းများအပေါ်သို့ ဆန်သောအခါ ကင်းစီး ( ်္ ) ဖြစ်လာသည်။

င + က = င်္က = လင်္ကာ

င+ခ = င်္ခ=သင်္ခါရ

င+ဂ =င်္ဂ =အင်္ဂါ

င+ဃ = င်္ဃ= သင်္ဃရာဇာ၊ သင်္ဃာ

ဉ+ စ= ဉ္စ=ပဉ္စမ

ဉ+ ဆ=ဉ္ဆ =လဉ္ဆ

ဉ+ ဇ= ဉ္ဇ=သဉ္ဇာလီ

ဉ+ ဈ=ဉ္ဈ =သဉ္ဈာ

ဏ+ဋ =ဏ္ဋ = ကုဏ္ဋတ်

ဏ+ဌ = ဏ္ဌာန်=

ဏ+ဍ=ကဏ္ဍ =ကဏ္ဍ၊ ပဏ္ဍိတ၊ မဏ္ဍပ်

ဏ+ ဎ= မရှိ

န+ တ= န္တ= ကန္တာရ

န+ ထ= န္ထ=ဂန္ထဝင်

န+ဒ =န္ဒ =စန္ဒာ

န+ ဓ=န္ဓ =ဂန္ဓ

မ+ ပ=မ္ပ = အလမ္ပာယ်

မ+ ဖ= မ္ဖ= သမ္ဖပ္ပလာပ

မ+ ဗ= မ္ဗ= ကမ္ဗလာ

မ+ ဘ=မ္ဘာ = ကမ္ဘာ

မှတ်ချက် ။ ။ အဝဂ်ဗျည်းများတွင် အက္ခရာကွဲ နှစ်လုံးဆန်၍ ရေးသောနည်း မရှိပါ။ အသုံးလည်းနည်းပါးပါသည်။ဗြဟ္မာ ၊ ဗြဟ္မစိုရ် စသည့် အနည်းငယ်သာရှိပါသည်။

## ကျက်မှတ်ရန် ဝေါဟာရ စကားလုံးများ

၁။ ဥပါယ်တံမျဉ်= မိမိအလိုပြည့်ရန် ကြံစည်ပြုလုပ်သာနည်းပရိယာယ်။

၂။ အဝိဇ္ဇာ= အမှန်ကို မသိမမြင်ခြင်း။

၃။ ယရည်း=ဆင်ထိန်း။

၄။ ဥသဘာ= ရှေ့ဆောင်နွားလား၊ တာ(၂၀)ရှိသော အကွာအဝေး။

၅။ ဥယျောဇဉ်= တိုက်တွန်းနှိုးဆော်သော စကား၊

၆။ ကြာမျိုးငါးပါး =ကုမုဒြာကြာ၊ပဒုမ္မာကြာ၊ကြာပုဏ္ဍရိပ်၊ကြာနီ၊ကြာညို။

၇။ ကျီ= စပါး ၊ ပဲ စသည်တို့ကို သိုမှီးရာ အဆောက်အအုံ။

၈။ နွဲ= ရေသွင်းရာတွင် အသုံးပြုရသော အရိုးရှည်တပ်ပက်ခွက်။

၉။ ဗျာပါဆံ = နားရွက်နှစ်ဖက်နောက်သို့ သိမ်းစု၍ နားရွက်အောက် မှ ရှေ့သို့ ပြန်ကော့ထားသော ဆံပင်စု။

၁၀။ ပလိုင်း= ကြိမ်၊နှီး စသည်ဖြင့် ရက်လုပ်ထားသော ကြိုးတပ်၍ လွယ်ရသော ထည့်စရာ ခြင်းတောင်းရှည်။

၁၁။ အမြွက်မျှ= အကျဉ်းမျှ။

၁၂။ အလျှင်း= အရင်း ၊ လုံးဝမပါရှိ။

၁၃။ ဒိုးတူပေါင်ဖက်= ဆိုးအတူ၊ကောင်းအတူ၊ သာအတူ၊နာအမျှ။

၁၄။ တရစပ်= အဆက်မပြတ်။

၁၅။ သောင်းဖြောင်း= အရောရော ၊အနှောနှော ။

၁၆။ ချောင်= ယဉ်ကျေး သိမ်မွေ့သာယာနူးညံ့သည်။

၁၇။ ယိုးမယ်ဖွဲ့= လိုးလွှဲရန် အကြောင်းရှာပြောသည် ၊ ရမယ်ရှာသည်။

၁၈။ မျက်မုန်းကျိုး= မကြည့်ချင်လောက်အောင် ကြာရှည်စွာမုန်းတီးသည်။

၁၉။ ကင်းပွန်းတပ်= မွေးစကလေးများကို ကင်ပွန်းရည် စသည်ဖြင့် ခေါင်းဆေးမင်္ဂလာ ပြုသည်။

၂၀။ ကြုံးဝါး= မိမိ၏ဂုဏ်ကျေးဇူးကို မြင့်မြောက် ပြောဆိုကြွေးကြော်သည်။

## စာလုံးပေါင်းသတ်ပုံ

“ ရေးထုံးအစဉ် ပျက်ယွင်းလျှင် အခေါ်သညာ အမှတ်အသား ပျက်ယွင်းရာသည်။ အခေါ်သညာ အမှတ်အသား ပျက်ယွင်းလျှင်လည်း အနက်အဓိပ္ပာယ် ဝတ္ထုတရားကိုယ် ကွဲလွဲဖောက်ပြန်ရာသည်။ အနက်အဓိပ္ပာယ် ကွဲလွဲဖောက် ပြန်လျှင်လည်း တရားကျမ်းဂန်လမ်းမှန်မကျ တိမ်းယိမ်းသွေကွယ် ရာသည် . . .”.

**ပဲ နှင့် ဘဲ**

“ပဲ” သည် အနက်ခွဲအရေးဖြစ်သည်။ ‘ပင်” နှင့် အနက်သဘောတူသည်။

သာဓက ။ ။

လူပဲ ၊ နတ်ပဲ ၊ သူပဲ ၊ ငါပဲ ၊ အဖေပဲ ၊ အမေပဲ . . . - လူပင် ၊ နတ်ပင် ၊ သူပင် ၊ ငါပင် . . .

‘ဘဲ”သည် ‘ဖဲ’၏ အသံစွဲ အရေးဖြစ်သည်။ ရှောင်ကြဉ်ခြင်း၊ တားမြစ်ခြင်း ၊ ငြင်းပယ်ခြင်း အနက်ရှိသော ‘မ” နှင့် တွဲ၍ သုံးရသည်။

သာဓက ။ ။

မလုပ်ဘဲ ၊ မဟုတ်ဘဲ ၊ မစားဘဲ ၊ မသွားဘဲ .. .

**ဖက် နှင့် ဘက်**

“ဖက်” ကို အပေါင်းအဖော် ဖွဲ့စည်းခြင်း ၊ ပေါင်းစည်းခြင်း နှင့် သချာပါသော အရေးအသားများတွင် သုံးသည်။

သာဓက ။

စုံဖက် ၊ စွက်ဖက် ၊ ဖက်စပ် ၊ လိုက်ဖက် ၊ ယှဉ်ဖက် တွဲဖက်၊ ကူဖော်လောင်ဖက်၊ ကြင်ဖော်ကြင်ဖက်၊ ဆေးဖော်ကြောဖက် . . .

- တစ်ဖက်တစ်ချက် ၊ လေးလုံးခြောက်ဖက် သုံးဖက်မြင်၊ လေးဖက်နာ ၊ နှစ်ဦးနှစ်ဖက်

ဘက်” ကို အရပ်မျက်နှာ၊ တည်နေရာ၊ ခွဲခြားကန့်သတ်ခြင်းများ ကို ဖော်ပြရာတွင် သုံးသည်။

သာဓက။

- အရှေ့ဘက်၊ အနောက်ဘက်၊ ရွာဘက်၊ ဝဲဘက်၊ ယာဘက်၊ သူ့ဘက်၊ ကိုယ့်ဘက်၊ မြောက်ဘက် ချွင်းချက်။ ။ ရဲဘော်ရဲဘက်

**ဖူး နှင့် ဘူး**

'ဖူး''ဖူး' ကို တွေ့ကြုံ၊ သိမြင်၊ ခံစား ဖြစ်ပျက် ခဲ့ပြီးကြောင်း ထင်ရှား စေလိုလျှင် သုံးသည်။

သာဓက။ ။

တွေ့ဖူးသည်။ မြင်ဖူးသည်။ စိတ်ကူးဖူးသည်၊ ကြံစည်ဖူးသည် . . .

"ဘူး" ကို ငြင်းပယ်သော အနက်ဖြင့် ကြိယာကို အထောက်အကူ ဖြစ်စေလိုက ငြင်းပယ်ခြင်း အနက်ရှိသည့် 'မ''မ' နှင့် တွဲ၍ သုံးသည်။

သာဓက ။

မမြင်ဘူး ၊ မသွားဘူး ၊ မစားဘူး ၊ မတွေ့ဖူးဘူး

**မီ နှင့် မှီ**

'မီ' သည် 'မိ' နှင့် အနက်ရင်းတူပါသည်။ ထိမိ၊ ဆက်စပ်၊ ပူးတွဲ ပေါင်းစည်း၊ ညီမျှသည့် အနက်ဖြစ်ပါသည်။ ထို့ကြောင့် တူညီ၊ ကိုက်ညီ၊ ညီမျှသည့် အနက်ကို ဆိုလိုပါက "မီ" ကို သုံးရသည်။

သာဓက။ ။

- ခေတ်မီ၊ စံချိန်မီ၊ လှမ်းမီ၊ အချိန်မီ၊ ရထားမမီ . . .

'ခု' ကို တစ်စုံတစ်ရာအား ယှဉ်ကပ်အားပြုသည်၊ သည်၊ အရာဝတ္ထုတစ်ခုခု ကြောင်းအရာတစ်ခုခု တွင် မိမိ တွယ်က ချိတ်ဆွဲ ထိမိစေသည် ဟူသော အနက်ကို ဖော်ဆောင်လိုလျှင် သုံးသည်။

သာဓက ။ ။

- မှီခိုသည်၊ မှီငြမ်းပြုသည်၊ မှီတင်းသည်၊ မှီဝဲသည်၊ မှီလိုက်အုံးမည် . . .

**မင် နှင့် မှင်**

'မင်' သည် စွဲလမ်း စွန်းထင်းခြင်း တပ်မက်တွယ်တာသော အနက် ရှိသည်။ မှင် ဟုအသံထွက်သော်လည်း ရေးသားရာတွင် ဟလုံးမပါရပါ။

သာဓက ။

- မင်အိုး ၊ မင်တံ ၊ မင်ခံစက္ကူ ၊ မင်ကြောင် .

'မှင်' အနက်သဘောမှာ ဟန်နေဟန်ထားကို ဆိုလိုသည်။ ထို့ ကြောင့် ကိုယ်ဟန်အနေအထားကို ဖော်ပြလိုလျှင် "မှင်" ကို သုံးသည်။

'မင်' သည် စွဲလမ်း စွန်းထင်းခြင်း တပ်မက်တွယ်တာသော အနက် ရှိသည်။ မှင် ဟုအသံထွက်သော်လည်း ရေးသားရာတွင် ဟလုံးမပါရပါ။ သာဓက ။

- မင်အိုး ၊ မင်တံ ၊ မင်ခံစက္ကူ ၊ မင်ကြောင် .

'မှင်' အနက်သဘောမှာ ဟန်နေဟန်ထားကို ဆိုလိုသည်။ ထို့ ကြောင့် ကိုယ်ဟန်အနေအထားကို ဖော်ပြလိုလျှင် "မှင်" ကို သုံးသည်။

- မှင်တက်မိ ၊ ရှင်မောင်း ၊ မှင်သေ ၊ နင်ပိ မှတ်ချက်။ ။ မှင်စာ(တစ္ဆေ) မှင်ဆံ (ခြသေ့် မြင်း တို့၏လည်ကုပ်မွေး) တို့ကို ရေးသားရာတွင် "မှင်" ကိုသုံးသည်။

**မြား နှင့် မျှား**

" မြား "သည် ရှည်လျားဖြောင့်စင်းသော အနက် 'မား'မား" ဟူသည့် ပုဒ်နှင့် ဆက်နွယ်သည်။ ထို့ကြောင့် ရှည်လျား သွယ်တန်း ဖြောင့်စင်းသေ သဘောကို ပြောလိုလျင် " မြား" ကို သုံးသည်။

သာဓက ။

လေးနှင့်မြား ၊ ဒိုင်းမြား ၊ ထိမ်းမြား မြားအတွင်း ဝင်ရ

''မျှား' ကို စွဲဆောင်ခြင်း အနက်သဘောဖြင့် ပြောလိုလျင် သုံးသည်။

သာဓက ။ ။

**ကြေ နှင့် ကျေ**

ရုတ်ဝတ္ထု အကောင်အထည်များကိုဆိုလျှင် ' ကြ' ' ကြ' ကို သုံးသည်။ သာဓက -

အစိတ်စိတ်မှုကြေ ၊ အပိုင်းပိုင်းကြေကွဲ ၊ မုန့်အကြေ . . .

စိတ်ပိုင်းဆိုင်ရာခံစားချက်ကိုဆိုလျှင် "ကျေ "ကို သုံးသည်။

သာဓက ။

ဝမ်းနည်းကျေကွဲ ၊ ဥဒါန်းမကျေ ၊ မကျေနပ် . . .

မှတ်ရန်

ရုပ် = ကြေ

စိတ် = ကျေ " ကမ္ဘာကြေသော်လည်း ဥဒါန်းမကျေ

**ကာ နှင့် ခါ**

“ကာ ” ကို တစ်ပြိုင်နက် ဖြစ်စေ၊ ဆက်တိုက်ဖြစ်စေ ဖြစ်ပျက်မှု ကို ပြလိုလျှင် သုံးသည်။

သာဓက ။

အိပ်ကာ စားကာ ၊ ရယ်ကာမောကာ ၊ ရယ်ကာ မောကာ ပြောသည် ၊ ဆေးလိပ်ကိုက်ကာ စာဖတ်သည်။ ဆံပင်ဆွဲကာ ပါးရိုက်သည် ၊ - ခြေထောက်ကိုင်ကာ ဟောင်းပန်သည်။

“ ခါ” ကို အချိန် အခါ ကာလကို ပြလိုသော် သုံးသည်။ ။ငယ်စဉ်အခါ ၊ ကြီးခါမှနောင်တရ ၊အရွယ်ရောက်ခါမှ . . သာဓက ။

## ကျက်မှတ်ရန် ဝေါဟာရ စကားလုံးများ

၁။ ကန္တာရ=သွားလာရန် ခက်ခဲကြမ်းတမ်းသောခရီး။

၂။ ကုမ္ဘာဏ်= နတ်ဘီလူးတစ်မျိုး။

၃။ ကိုယ်လုပ်တော်= ဘုရင်၏အပါးတွင် အလုပ်အကျွေး ပြုရသော မယား၊ မိဖုရားကြီးထက်အဆင့်နိမ့်၍ မောင်းမထက်မြင့်သူ။

၄။ ကျိုင်း=အရိုးရှည်တပ် ထီးသဏ္ဌာန် မင်း၊ မှူးမတ်၊ အဆောင်အယောင်တစ်မျိုး။

၅။ကျတ်တွင်း= တောတွင်းတိရစ္ဆာန်များ ဆားအလို့ငှာလျက်ရ သောက်ရသော ဆားတွင်း၊ ဆားကျင်း။

၆။ ကြငှန်း=ထီးနန်း။

၇။ ခန်းဝါ=နေရာ၊ အရပ်။

၈။ စရိယ= အကျင့်။

၉။ စကားဖန်=ကြားဖြတ်ကာ သိုင်းဝိုင်း ချဲ့ထွင် ဖန်တီး ပြောဆိုသော စကား

၁၀။ စာဂ= စွန့်ကြဲ ပေးကမ်းခြင်း။

၁၁။ စက်စုံ= ခြေတော်စုံ။

၁၂။ ဇေယျတု= အောင်မြင်ကြောင်း မင်္ဂလာစကား။

၁၃။ ဇင်ဂလယ်= တိုင်ငယ် ပြည်ငယ်။

၁၄။ တာဝတိံသာ= နတ်ပြည်ခြောက်ထပ်တွင် ဒုတိယမြောက်အထပ်။

၁၅။ တန်း=အချုပ်ခန်း ၊ ရာဇဝတ်မှုကို စစ်ဆေးဆဲအခါ ချုပ်ထားသော နေရာ။

၁၆။ ပါရမီ= ဘဝအဆက်ဆက် ဖြည့်ဆည်းအပ်သော အလေ့အထုံ။

## လောကသာရ

ပညာမျက်စိ၊မြင်မရှိ၍၊
မသိတရား၊အယူမှားလျက်၊
စီးပွားမမြော်၊ကျိုးမပေါ်သား၊
သူတော်မဟုတ်၊
ယုတ်သည်စရိုက်၊လူသူမိုက်ကို၊
မကြိုက်မချစ်၊ရန်သူစစ်သို့၊
မနှစ်သက်ဘဲ၊ဝေးစွာရှဲ၍၊
အမြဲခွာရှင်း၊ဖဲကြဉ်မင်း။
ကြောင်းပါးခရီး၊လမ်းအနီး၌၊
ပင်ထီးပညောင်၊မြစ်တထောင်နှင့်၊
မြားမြောင်ခက်လက်၊ရွက်လည်းစိပ်စိပ်၊
စေ့စေ့သိပ်လျက်၊
ရိပ်လည်းမြိုင်မြိုင်၊လေမနိုင်လျှင်၊
ပြွတ်ခိုင်သီးမှည့်၊အပြည့်ကျေးငှက်၊
စားလျက်သောင်းသဲ၊မှီဝဲလူဗိုလ်၊
ရိပ်ခိုအများ၊ခရီးသွားတို့၊
နေနားပျော်ရွှင်၊ထိုသစ်ပင်ကား၊
ဝင်လာသသူ၊ခပ်သိမ်းလူကို၊
ဆာပူငြိမ်းအောင်၊စီးပွားဆောင်သို့၊
လူ့ဘောင်ကောင်းကြွယ်၊လူကုံကယ်လည်း
ထိုနှယ်လည်းကောင်း၊ဖြစ်တုံရှောင်း၍၊
မျိုးပေါင်းဆွေပါး၊လူအများကို၊
သနားကြင်နာ၊စီးပွားရှာ၍၊
မေတ္တာမကင်း၊မစခြင်းဖြင့်၊
ထံရင်းမှီကိုးကွယ်စေမင်း။

## ကျက်မှတ်ရန် ဝေါဟာရ စကားလုံးများ

၁။ သောင်းသဲ။= ဆူဆူညံညံ

၂။ ပညောင်= ပြည်ညောင်ပင်။ အကိုင်းမှ တွဲလျား ကျသော မြစ်ပျဉ်းများရှိသည့် ညောင်ပင်။

၃။ ပက္ကလာ=နေမိုး ကာကွယ်ရန် စလူ၊ ဝါးဖက် စသည်တို့ကို နှီးဖြင့် ချုပ်သတ် ပြုလုပ်ထားသော ကျောပြင်ပါလုံသည့် ခေါင်းဆောင်းရှည်တစ်မျိုး။

၄။ ဗေလုဝစောင်း= ပဥ္စသီခ နတ်သား၏ စောင်းအမည်

၅။ မဟာဥပရာဇ်= သိမ်ရှေ့မင်း။

၆။ မဂ်= နိဗ္ဗာန် ဝင်ရာလမ်းကြောင်း။

၇။ မောင်းမမိဿံ== ဘုရင်၊ မိဖုရားတို့၏ အခြံအရံ နန်းတွင်း အမှုလုပ် မိန်းမများ။

၈။ ရဝေ= နန်းတော်။

၉။ လောကဓံ= လောကတွင်ဖြစ်လေ့ ဖြစ်ထရှိသော နိမ့်မြင့် သဘောတရား။

၁၀။ ဝေဝုစ်=စကားပရိယာယ်။

၁၁။ သိင်္ဂ= ရွှေကောင်းတစ်မျိုး။

၁၂။ သဗ္ဗညုတဉာဏ်= အလုံးစုံကို သိသောဉာဏ်။

၁၃။ သမ္ဘာ = ဘုန်းကံ။

၁၄။ ဧကရာဇ်= တစ်ပါးသောမင်း။

၁၅။ ဥကင်= ရာဇပလ္လင်၏ အထက်ပိုင်း။

၁၆။ ဥပ္ပဒ္ဒဝေါ= မမျှော်လင့်ဘဲ ရုတ်တရက် ဖြစ်လာသော ဘေးအန္တရာယ်။

၁၇။ ကင်းဝတ်လှည့်= ခိုးသား၊ ရန်သူတို့၏ အသွားအလာကို လှည့်လ စော့်ကြည့်သည်။

၁၈။ ချွတ်ခြုံ=ခါးပတ်ကိုပင်ချွတ်၍ခြုံရလောက်အောင် ဆင်းရဲသည်။

ကျတ်မှတ်ရန် ခက်ဆစ်များ

၁။ ပေါင်းလန် = များပြားပြည့်လျှံသည်။

၂။ ပုံးဖာမှောက်ဆင် = ရှိသမျှနှင့်လှအောင် အစွမ်းကုန်ပြင်ဆင်သည်။

၃။စျာန်သစ်ဝင် = စိတ်အာရုံအသစ်ဝင်စားသည်။

၄။ ဓါတ်ကြီးလေးပါး = မြေ၊ မီး၊ ရေ၊ လေ (သို့) ပထဝီ၊ တေဇော၊ အာပေါ၊ ဝါယော ဓါတ်ကြီးလေးပါး။

၅။ လောကွတ်= ဖော်ရွေပျူငှာမှု။
၆။ လောကွတ်ချော်= လိုအပ်သည်ထက် ပို၍ လောကွတ်ပြုသည်။
၇။လက်ပမ်းပေါက် =ကွေးဝိုက်ထားသောလက်နှင့် ရင်အုပ် ဆုံရာနေရာကို တစ်ဖက်လက်ဝါးဖြင့် အသံမြည်အောင် ရိုက်သည်။
၈။ စင်းလုံးချွတ်=အလုံးစုံ။
၉။ နီးဒေါင်းလန်း= ဝါးနီးဖြင့်ရက်လုပ်ထားသော ခြေထောက်တပ်ဗန်းကြီး။
၁၀။ ကိန္နရီ= ငှက်ကိုယ်နှင့်လူခေါင်း (သို့) လူကိုယ်နှင့်မြင်းမျက်နှာ ရှိသော သတ္တဝါအမ။
၁၁။ မြောင်= ကုန်းမြင့်နှစ်ခုကြား အလျားရှည်၍ အနံကျဉ်းသော ချိုင့်ဝှမ်း။
၁၂။ ခန္ဓာစဲ= သေသည်
၁၃။ လိပ်ပြာ= စိတ်ဝိဉာဉ်။
၁၄။ ဂနိုင်= သစ်ပင်ကြီးများ ထူထပ်များပြားစွာ ပေါက်နေသောတော။
၁၅။ မဟာမြိုင်= စိမ်းစိုအုပ်မှိုင်းပြီး ကြီးမားသည့်တော။
၁၆။အင်း= လောကီပညာအရ ဂဏန်းအက္ခရာများကို ရေးသား စီရင်ထားသော ဇယားကွက်။
၁၇။ တန်လင်း= မြေကွက်လပ် ၊ ကွင်းပြင်။
၁၈။ ဆယ်တာ= အတောင်လေးဆယ် အကွာအဝေးရှိသော ခရီး။
၁၉။ တစပြင်= လူသေကောင် မြှပ်ရာအရပ် ၊ သင်္ချိုင်း။

## ကျက်မှတ်ရန် ဝေါဟာရစကားလုံးများ

၁။ မိစ္ဆာ = အယူမှားသောသူ (တိတ္ထိ)။

၂။ အမြုတေ=အနှစ်၊ အနှစ်သာရ

၃။ ဣဒ္ဓိပါဒ်= တန်ခိုး။

၄။ ကလိယုဂ်= ကပ်ဆိုး ၊ ဆုတ်ကပ် ၊ မကောင်းမှုယှဉ်ရာ ခေတ်အခါ

၅။ တံဖျာ= ကျွဲ ၊ နွား ၊ မြင်း သတ္တဝါတို့ကို ရိုက်မောင်းရသော တုတ်။

၆။ ကံ့ကူတံ= ပုရပိုက် စသည်တို့တွင် ရေးရသော ကျောက်နုခေါ် ကံ့ကူဆံ ကပ်ရသော အတံ။

၇။ တဘောင် = သူငယ် ၊ သဘင်သည်နှင့် သူရူးတို့ ပြောဆိုကြသော နိမိတ်စကား။

၈။ ဂါရဝ= အရိုအသေပေးခြင်း ၊ လေးစားခြင်း၊

၉။ နိဝါတ = မိမိကိုယ်ကို နှိမ့်ချခြင်း ၊ မာနကို ချိုးနှိပ်ခြင်း။

၁၀။ မုခ်= အပေါက် ၊ တံခါးပေါက်။

၁၁။ ဝံသာနု= မျိုးချစ် ရှိသူ။

၁၂။ မကိုဋ်= ဘုရင် စသော မြင့်မြတ်သူတို့ ဆောင်းသည့် ဦးခေါင်း အဆင်တန်ဆာ။

၁၃။ ကာမဂုဏ်= လိုချင်နှစ်သက်ဖွယ် အာရုံ။

၁၄။ မြူ= မြေလွှာအထက်ဝန်းကျင်၌ ရစ်ဆိုင်းနေတတ်သော အ ခိုး အငွေ့။

၁၅။ ညောင်စောင်း= ခြေလေးချောင်းတပ် အိပ်စင် ၊ ခုတ။

၁၆။ သင်္ခမ်း= သူတော်ကောင်းတို့ နေထိုင်ရာ အဆောက်အအုံ။

၁၇။ အသချေ်= မရေမတွက်နိုင်အောင် များပြားသည် ။

၁၈။ ပလ္လွား= ဝင့်ဝါသည်။

၁၉။ကောက်လျှင်= စိုက်သည့်ရက်မှ ရက်ပေါင်း ၁၄၀-၁၅၀ အတွင်း မှည့် သော သက်နုစပါးတစ်မျိုး။

**ဝိဇ္ဇာသိပ္ပလူ့ကိစ္စ**

သကျရှုပ်၊ ကြံကြံသမျှ
တောင့်တရာရာ၊ တတ်ကောင်းစွာသား
ဝိဇ္ဇာသိပ္ပ၊ လူ့ကိစ္စကို
ငယ်ကမသင်၊ ပျော်ပါးလွင်မူ
အကြင်သူအား၊ စကားချေတင်
သဘင်မပြဲ၊ ခံတွင်းမဲ့သို့
ချို့တဲ့ပညာ ၊ ညှိုးမျက်နှာနှင့်
ရှုံ့ရှာလန့်ထိတ် ၊ အသံဆိတ်၏။
တိတ်တိတ်မနေ ၊ ဆိုပါချေလည်း
မပြေမပြစ် ၊ အထစ်ထစ်လျှင်
ကျစ်လျစ်မရှိ ၊ အငြိငြိတည့်။
ဟုတ်လိနိုးနိုး ၊ ဆင်ကန်းတိုးသို့
အကျိုးအကြောင်း ၊ ကောင်းကောင်းမမှန်
သမ္ဘန်ပါငြ်လျောက် ၊ ရှေ့နောက်မညီ
အစီအလျဉ် ၊ အစဉ်မသင့်
တဖျင့်တစ်ပါး ၊ ရယ်ဖွယ်များခဲ့။
ဘိုးဘွားမိဘ ၊ သူကြီးမ၍
မလျှမညိုး ၊ မစိုးမရိမ်
နတ်စည်းစိမ်သို့ ၊ ရွှေအိမ်ဘုံမြင့်
ခုနစ်ဆင့်ထက် ၊ နေလင့်ကစား
ပြာသာဒ်ဖျားဝယ် ၊ နားသည့်ကျိုးမျှ
ပမာကျလိမ့်။
အင်္ဂပစ္စင် ၊ သွင်ပြင်ရုပ်ဝါ
ပြည့်စုံပါလည်း ၊ နံ့သာလိုင်ခြင်း
ဂုဏ်နံ့ကင်းမူ ၊ အဆင်းလှဆန်း

လူ့ပေါက်ပန်းဟု ၊ သွမ်းမှန်းသိထွေ
ကဲ့ရဲ့လေအံ့။
လုပ်ခြေလုပ်လက် ၊ စဉ်ဆက်နည်းမှီး
မကျင့်သီးသော် ၊ ချည်းနှီးဥစ္စာ
လိုခါမရ ၊ ကြောင့်ကြစိုးရိမ်
ဖန်ကြိမ်များစွာ ၊ အိုသောခါလည်း
မဟာဒုက္ခ ၊ တွင်းဆုံးကျသည်
နောင်တနှလုံး မငြိမ်တည်း။

**ကျက်မှတ်ရန် ဝေါဟာရ စကားလုံးများ**

၁။ ဝိဇ္ဇာသိပ္ပ= အသိပညာ ၊ အတတ်ပညာ။
၂။ သကျရုပ်= စွမ်းနိုင်သောသဘော။
၃။ သဘင် = အစုအဝေး။
၄။ မပြီ = မထင်ရှား။
၅။ သမ္ဗန် = စကားအဆက်အစပ်။
၆။ ပြာသာဒ်ဖျား = ဘုံအဆင့်နှင့် ထုပိကာပါသော အဆောက်အအုံးထိပ်ဖျား။
၇။ ပါဌ်လျောက် = စကားအစီအစဉ် အလျောက်။
၈။ အင်္ဂပစ္စင်= အင်္ဂါကြီးငယ်။
၉။ လူ့ပေါက်ပန်း = အဆင်းသာရှိ၍ အချင်းမရှိသူ။
၁၀။ သွမ်းမှန်းသိထွေ= အကျင့်ဆိုးသွမ်းကြောင်းကိုသိ၍။
၁၁။ မကျင့်သီး = မကျင့်ကြံ။
၁၂။ နောင်တ = ပြုသင့်သည်ကို မပြုမိ၊ မပြုသင့်သည်ကို ပြု အတွက် အချိန်လွန်မှ ပူပန်ခြင်း။
၁၃။ တွင်းဆုံးကျ = အဆင်းရဲကြီး ဆင်းရဲသည်။

## သီကုန်းပန်းသွင်နေ့တိုင်းဆင်

သုစိပုဘာ၊ ဝိလိသိဒဓာ
အက္ခရာစွဲသုံး ၊ ဤရှစ်လုံးကို
သီကုံးပန်းသွင် ၊ နေ့တိုင်းဆင်လော့။
စာသင်ပျိုနု ၊ အခြေပြုတို့
ဥဇုဘူတ ၊ လုံ့လပြင်ရွှာ
သူ့ထက်ငါဟု ၊ နှုတ်မှာရွရွ
ကြိုးပမ်းကလျှင် ၊ သိပ္ပကျေးဇူး
အထူးသိမြင် ၊ ပညာရှင်ဟု
မထင်မပေါ် မကျော်စောဘဲ
တီမှာလွဲအံ့။
အရဲကြိုးကုတ် ၊ ကြက်ရဲစုတ်သို့
အားထုတ်ခုံမင် ၊ မသင်မအံ
အကြံမမေး ဆွေးနွေးရောနှော
ပြောဟောမဲ့ထွေ ၊ ပေချပ်ရေဖြင့်
ကုန်စေဆန်းသာ ၊ သင်ချေပါလည်း
ဘယ်မှာဂုဏ်ရှင် ၊ ကျော်စောထင်ချိမ့်
စာသင်ဟူက ၊ ကျမ်းထိုမျှကို
တွေ့ကမရှောင် ၊ ကြောင်ပုစွန်စား
ကျွတ်ကျွတ်ဝါးသို့ ၊ လွှသွားပမာ
ကျောက်ထက်စာသို့ ၊ လိုရာရအောင်
ကြံဆောင်လော့ကျက် ၊ အနက်ဓိပ္ပာယ်
နှုတ်ဝယ်ရွရွ ၊ ထားချေမှတည့်။
တစ်စပေါ်လျှင် ၊ ချည်စင်သို့
သဘင်ပွဲမှောက် ၊ ဆိုရေးရောက်က
လန့်ကြောက်မရှိ ၊ သတိမြဲခိုင်
ကျောက်တိုင်ပမာ ၊ ကေသရာသို့

ရွှံ့ရှာမဲ့လျှင်း ၊ ဆိုခင်းနည်းနာ
အဖြာဖြာကို ၊ မကြာနှုတ်လျှောက်
ခန့်ချင့်ထောက်လေ့။

## ကျက်မှတ်ရန် ဝေါဟာရ စကားလုံးများ

၁။ သု= သုဏေယျ ၊ ကြားနာရာ၏။
၂။ စိ = စန္တေယျ၊ကြံရာ၏။
၃။ ပု = ပုစ္ဆေယျ ၊ မေးရာ၏။
၄။ ဘာ = ဘာသေယျ ၊ ပြောဆိုရာ၏။
၅။ ဝိ = ဝိစာရေယျ ၊ စူးစမ်းဆင်ခြင်ရာ၏။
၆။ လိ = လိခေယျ ၊ ရေးမှတ်ရာ၏။
၇။ သိ = သိက္ခေယျ ၊ လေ့ကျင့်ရာ၏။
၈။ ဓါ= ဓာရေယျ ၊ နှုတ်တတ်ဆောင်ရာ၏။
၉။ ဥဇုဘူတ =ဖြောင့်မတ်သောအဖြစ်။
၁၀။ ပေချပ် = ရှေးခေတ်က အသုံးပြုသော စာရေးရန် ပြုလုပ်ထားသည့် ပေရွက်။
၁၁။ ချိမ့်= ချေအုံ့။
၁၂။ သဘင်= အစုအဝေး။
၁၃။ ကေသရာ= လည်ဆံမွေးရှိသော ခြင်္သေ့။

## ရသ (၉) ပါး

**၁။ သိင်္ဂါရ ရသ**

ဖို မ တို့၏ ချစ်ခင်နှစ်သက်မှုကို ဖွဲ့ဆိုလျှင် သိင်္ဂါရ ရသမြောက်ပါသည်

**၂။ ဟာသရသ**

ပြုံးပျော်ရယ်ရွှင်မှုကို ဖွဲ့ဆိုလျှင် ဟာသရသ မြောက်ပါသည်။

**၃။ ကရုဏာရသ**

သနားကြင်နာမှုကို ဖွဲ့ဆိုလျှင် ကရုဏာရသ မြောက်ပါသည်၊

**၄။ ရုဒ္ဒရသ**

ရက်စက်ကြမ်းကြုတ်မှုကို ဖွဲ့ဆိုလျှင် ရုဒ္ဒရသ မြောက်ပါသည်။

**၅။ ဝီရ ရသ**

ရဲရင့်စွန့်စားမှုကို ဖွဲ့ဆိုလျှင် ဝီရ ရသမြောက်ပါသည်။

**၆။ ဘယာနက ရသ**

ကြောက်ရွံ့ထိတ်လန့်မှုကို ဖွဲ့ဆိုလျှင် ဘယာနက ရသမြောက်ပါသည်။

**၇။ ဝိဘစ္ဆ ရသ**

မုန်းတီးရွံရှာ စက်ဆုပ်မှုကို ဖွဲ့ဆိုလျှင် ဝိဘစ္ဆ ရသမြောက်ပါသည်။

**၈။ အဗ္ဘုတ ရသ**

အံ့ဩမှုကို ဖွဲ့ဆိုလျှင် အဗ္ဘုတ ရသမြောက်ပါသည်။

**၉။ သန္တ ရသ**

တည်ကြည် ငြိမ်းချမ်း နှစ်သက် တင်းတိမ်မှုကို ဖွဲ့ဆိုလျှင် သန္တ ရသ မြောက်ပါသည်။

## လင်္ကာ (၆) ပါး

၁။ ဥပမာအလင်္ကာ

၂။ ရူပကအလင်္ကာ

၃။ မြည်သံစွဲအလင်္ကာ

၄။ သံတူထပ်အလင်္ကာ

၅။ အတိသယဝုတ္တိအလင်္ကာ

၆။ ဝင်္ကဝုတ္တိအလင်္ကာ

**၁။ ဥပမာအလင်္ကာ**

အရာတစ်ခုကို အခြားအရာတစ်ခုနှင့်တူသည်ဟု ခိုင်းနှိုင်းခြင်း၊ မမြင်သာသောအရာကို မြင်သာအောင် ဥပမာဆောင်၍ ရေးသားပြောဆိုခြင်း တ ကို ဥပမာအလင်္ကာမြောက်သည် ဟု ဆိုပါသည်။

'နှယ်" "သဖွယ်' 'အလား" "အတိုင်း" "လို" စသည့် စကားလုံးများနှင့် က လျှင် ဥပမာအလင်္ကာ ဟု မှတ်ယူနိုင်သည်။

သာဓက ။ ။

-ပန်းကလေးတစ်ပွင့်လို လှပသည်။

-မီးတောက်သဖွယ် ပူပြင်းသည်။

-လဝန်းကဲ့သို့ ကြည်လင်သည်။

- နံနက်နေရောင်အလား တောက်ပသည်။

-နတ်သမီးလေးအတိုင်း ခြယ်သထားသည်။ ကျောက်တိုင်ကြီးနှယ် ခိုင်မြဲသည်။

**၂။ ရူပကအလင်္ကာ**

ဂုဏ်ရည်တူသော အရာနှစ်ခုအားထပ်တူပြု၍ ရေးဖွဲ့ထားခြင်းကို ရူပက အလင်္ကာ မြောက်သည်ဟု ဆိုပါသည်။

သာဓက ။ ။

- ပညာဆီမီး

-တရားရေအေး

-ဒေါသအဆိပ်

-ဘဝသစ်ပင်

၃။ မြည်သံစွဲအလင်္ကာ

ရေးဖွဲ့ရာတွင်နားဖြင့်ကြားရသည့်အသံအတိုင်းထည့်သွင်းရေးဖွဲ့ထားလျှင်မြည်သံစွဲအလင်္ကာမြောက်သည်ဟု ဆိုပါသည်။

သာဓက ။ ။

-ဝုန်းခနဲ

-ဒိုင်းခနဲ

-ဗုန်းဗုန်းမြေသို့ကျ

-ကျွတ်ကျွတ်ဝါး

**၄။ သံတူထပ်အလင်္ကာ**

စကားလုံးအသံတူရာလေးများကိုထပ်ခါထပ်ခါရေးဖွဲ့ထားလျှင်မြည်သံစွဲအလင်္ကာမြောက်သည်ဟု ဆိုပါသည်။

သာဓက ။ ။

-ထန်းပင် ထန်းလက် ထန်းရွက်ကယ်ဝေဝေ

- တစ်သန်းတယ်ဟယ် တစ်တွယ်တာတာ တစ်လှိုက်လှိုက်

**၅။ အတိသယရုပ္ပတ္တိအလင်္ကာ**

မဖြစ်နိုင်သောအရာကိုဖြစ်နိုင်သယောင်အလွန်အကျူးတင်စားရေးဖွဲ့ခြင်းကိုအတိသယဝုတ္တိအလင်္ကာ မြောက်သည်ဟု ဆိုပါသည်။

- ကျမျက်ရည် ချောင်းဖြစ်အောင်

-အူအသည်းပြောင်းပြန်လန်

-စကြဝဠာတံတိုင်းကို ဖောက်ထွက်သောမြား

**၆။ ဝင်္ကဝုတ္တိအလင်္ကာ**

ပြောဆိုလိုသောစကားလုံးကိုတိုက်ရိုက်မရေးဘဲသွယ်ဝိုက်၍ရေးဖွဲ့ခြင်းကိုဝင်္ကဝုတ္တိအလင်္ကာ မြောက်သည်ဟု ဆိုပါသည်။

-ခန္ဓာစဲ

-စက္ခုနှစ်ကွင်း အလင်းမရ

-မြေနှင့်ရန်ဖက်

-ဂုဏ်နံ့ကင်း

## အထွေထွေ ဗဟုသုတများ

### ၁။ သင်္ဂဟတရားလေးပါး

စည်းရုံးသိမ်းသွင်းကြောင်းဖြစ်သော သင်္ဂဟတရားလေးပါးဆိုသည်မှာ

- ဒါနဟူသော ပေးကမ်းခြင်း
-ပိယဝါစာဟူသော ချစ်စဖွယ်စကားဆိုခြင်း
-အတ္ထစရိယဟူသော အကျိုးဆောင်ခြင်း
-သမာနတ္တတာဟူသော မိမိနှင့်တန်းတူ ဆက်ဆံခြင်း တို့ကို ခေါ်ပါသည်။

### ၂။ ကပ်ကြီးသုံးပါး

ကပ်ကြီးသုံးပါး ဆိုသည်မှာ -

- ဒုဗ္ဘိက္ခန္တရကပ်ဟု ခေါ်သော အစာငတ်မွတ်ခေါင်းပါး၍ သေကြေ ပျက်စီးသောကပ် ၊
-သတ္ထန္တရကပ်ဟု ခေါ်သော လက်နက်ဘေးကြောင့် သေကြေပျက်စီးသောကပ် ၊
-ရောဂန္တရကပ်ဟု ခေါ်သော ရောဂါဘေးကြောင့် သေကြေပျက်စီး သောကပ်
တို့ကိုခေါ်ပါသည်။

### ၃။ ရန်သူမျိုးငါးပါး

ရန်သူမျိုးငါးပါးဆိုသည်မှာရေး၊မီး၊မင်း၊သူခိုး၊မချစ်မသက်သောသူတည်းဟူသော အန္တရာယ် သင့်ရောက်စေနိုင် သည့် ရန်သူငါးပါးကို ဆိုပါသည်။

### ၄။ နဝရတ်ကိုးသွယ်

နဝရတ်ကိုးသွယ်ဆိုသည်မှာ အောက်တွင်ဖော်ပြထားသော ရတနာကိုးမျိုးကို ခြုံငုံ၍ ခေါ်ဆိုပါသည်။ ၎င်းရတနာ ကိုးမျိုးမှာ -

(၁) စိန်
(၂) ပတ္တမြား
(၃) နီလာ
(၄) ပုလဲ
(၅)သန္တာ
(၆) မြ
(၇) ဥဿဖရား
(၈) ဂေါ်မိတ်

(၉) ကြောင်

တို့ဖြစ်ပါသည်။

**၅။ ဗျသနတရားငါးပါး**

ဗျသနတရားငါးပါး ဆိုသည်မှာ ပျက်စီးခြင်းတရားငါးပါးကိုဆိုလိုပါသည်။ ၎င်းပျက်စီးခြင်းတရားငါးပါးမှာ -

(၁) ဉာတိဗျသန( အဆွေအမျိုး ပျက်စီးခြင်း )

(၂) ဘောဂဗျသန( စီးပွားပျက်စီးခြင်း )

(၃) ရောဂဗျသန( အနာရောဂါနှိပ်ဆက်၍ ပျက်စီးခြင်း )

(၄) သီလဗျသန( အကျင့်သီလ ပျက်စီးခြင်း )

(၅) ဒိဋ္ဌိဗျသန ( မှန်ကန်သော အယူဝါဒ ပျက်စီးခြင်း )

တို့ဖြစ်ပါသည်။

**၆။ မင်းမြောက်တန်ဆာငါးပါး မင်းမြောက်တန်ဆာငါးပါးမှာ-**

(၁)ထီးဖြူ

(၂) မကိုဋ်မှ (သင်းကျစ်)

(၃) သန်လျက်

(၄) သားမြီးယပ်

(၅) ခြေနင်း

တို့ ဖြစ်ပါသည်။

**၇။ ရှေးမြန်မာမင်းများလက်ထက် ဒေသအမည်များ**

ရှေးမြန်မာမင်းများလက်ထက်က မြန်မာနိုင်ငံ၏ အချို့ သောဒေသများကို ယနေ့ ခေတ် ခေါ်တွင်နေသော အမည်မဟုတ်ဘဲ အခြား အမည်များဖြင့် တွင်ကျယ်စွာ ခေါ်ဝေါ် သုံးစွဲခဲ့ပါသည်။ ၎င်းတို့ကို အောက်တွင် ယှဉ်တွဲဖော်ပြထားပါသည်။

ရှမ်းပြည်နယ် = မောရဝတီ ၊ ကမ္ဘောဇ

ကယားပြည်နယ် = ကန္တာရဝတီ

ရခိုင်ပြည်နယ် = ဓညဝတီ

မွန်ပြည်နယ် =ရာမည

သထုံ= သုဓမ္မဝတီ ၊ သုဝဏ္ဏဘုမ္မိ

ပဲခူး= ဥဿာ ၊ ဟံသာဝတီ
မုံရွာ= သလ္လာဝတီ
ပြည် = သရေခေတ္တရာ
တောင်တွင်းကြီး = ဗိဿနိုး
မန္တလေး= ရတနာပုံ
တောင်ငူ= ကေတုမဏီ
စစ်ကိုင်း = ဇေယျပူရ
အင်းဝ= ရတနာပူရ

**၈။ရတု သတ်မှတ်ချက်များ**

နှစ်အလိုက် မှတ်သားနိုင်ပါသည်။ ရတုသတ်မှတ်ချက်များကို အောက်ပါအတိုင်း မှတ်သားနိုင်ပါသည်။

-(၁၀) နှစ်ပြည့် = သံဖြူ ရတု
-(၁၁) နှစ်ပြည့် = သံမဏိ ရတု
- (၁၂) နှစ်ပြည့် =ချည် ရတု
- (၁၃) နှစ်ပြည့် =ဇာပန်း ရတု
- (၁၄) နှစ်ပြည့်= ဆင်စွယ် ရတု
- (၁၅) နှစ်ပြည့် =သလင်း ရတု
-(၂၀) နှစ်ပြည့် =ကြွေ ရတု
-(၂၅) နှစ်ပြည့် = ငွေ ရတု
-(၃၀) နှစ်ပြည့် = ပုလဲ ရတု
-(၃၅) နှစ်ပြည့်= ကျောက်စိမ်း ရတု
-(၄၀) နှစ်ပြည့်= ပတ္တမြား ရတု
-(၄၅) နှစ်ပြည့် = နီလာ ရတု
-(၅၀) နှစ်ပြည့် = ရွှေ ရတု
-(၅၅) နှစ်ပြည့် = မြ ရတု
-(၆၀) နှစ်ပြည့် = စိန် ရတု
- (၇၅) နှစ်ပြည့် = ဒုတိယစိန် ရတု

-(၉၀) နှစ်ပြည့် = န၀ရတ် ရတု

**၂၀။ မြန်မာ့လက်မှုအနုပညာ ပန်းဆယ်မျိုး**

မြန်မာ့လက်မှု အနုပညာ ပန်းဆယ်မျိုးဆိုသည်မှာ လက်မှုပညာ လုပ်ငန်းရပ်ဆယ်မျိုးကို ဆိုလိုပါသည်။ ၎င်းတို့မှာ

**ပန်းပဲ -** သံထည်အမျိုးမျိုး သွန်းလုပ်သည့် အတပ်ပညာ။

**ပန်းထိမ် -** ရွှေ ၊ ငွေ တို့ကို လက်ဝတ်တန်ဆာ စသည့် ပြုလုပ် သည့် အတတ်ပညာ။

**ပန်းတဉ်း -** ကြေးထည် သွန်းလုပ်မှု အတတ်ပညာ။

**ပန်းတော့ -** ဒဂ်တေ ရုပ်လုံး ရုပ်ကြွ ပန်းချီ အတတ် ပညာ။

**ပန်းတမော့ -** ကျောက်ဆစ်ရုပ်ထု အတတ်ပညာ။

**ပန်းရံ -** အုပ်၊ အင်္ဂတေတို့ဖြင့် အဆောက်အအုံဆောက်လုပ် သည့် အတတ်ပညာ။

**ပန်းပု** - သစ်သား ၊ ဆင်စွယ် ၊ မြေစေး တို့ကို ရုပ်လုံးရုပ် ကြွ ထွင်းထုသော အတတ်ပညာ။

**ပန်းပွတ် -** သစ်သား၊ ဆင်စွယ် စသည့်တို့ကို ပွတ်ခုံ၍ ပုံဖော် သည့် အတတ်ပညာ။

**ပန်းချီ** - ရုပ်ပုံ ရေးခြယ်သော အတတ်ပညာ။

**ပန်းယွန်း -** ယွန်းထည် ပြုလုပ်သော အတတ်ပညာ တို့ ဖြစ်ပါသည်။

## ကျက်မှတ်ရန် ဝေါဟာရ စကားလုံးများ

၁။ သမုဒယ = ဆင်းရဲဖြစ်ကြောင်း

၂။ အာသဝေါ =သတ္တဝါ၌ အစဉ်မပြတ် ဖြစ်လေ့ရှိသော ကိလေသာ

၃။ ကိလေသာ= စိတ်ကိုညစ်ညူးစေတတ်၊ ပူပန်စေတတ်သော တရား

၄။ ဘိက္ခုနီ=ရဟန်းမ။

၅။ ဋီကာ=အဖွင့်ကျမ်း။

၆။ သံသရာ=အဖန်တလဲလဲ မပြတ် ကျင်လည်ရာ ဘဝဆက်ဆက်။

၇။ အကျွတ်= သံသရာမှ လွတ်မြောက်ခြင်း။

၈။ အာသာ=အလိုဆန္ဒ

၉။ ပိန္နဲတိုင်= စေတီတွင် ထီးတင်ရန်တိုင်လုံး။

အဆောက်အအုံ၏ထုပ်တန်းအလယ်ဗဟိုတွင် စိုက်သောတိုင်။

၁၀။ ပဋိသန္ဓာရစကား =တွေ့ခါစ နှုတ်ဆက်ပြောဆိုသော စကား။

၁၁။ အန္ဓဗာလ =မိုက်ကန်းသောသူ။

၁၂။ ပဏ္ဍိတ = ပညာရှိ။

၁၃။ ဒုဂ္ဂတိ = အပါယ်လေးဘုံ။

၁၄။ သုဂတိ = ကောင်းမှုပြုသူတို့ ဆိုက်ရောက်ရာဘုံ။

၁၅။ အပါယ်လေးပါး = ငရဲ၊ တိရစ္ဆာန်၊ ပြိတ္တာ၊ အသူရကာယ် ဟူသော ဒုက္ခလေးပါး။

၁၆။ ပြိတ္တာ = သရဲ ၊ တစ္ဆေ ၊ မှင်စာ စသော နာနာဘာဝ။

၁၇။ အသူရကာယ် = ပြိတ္တာ အအုပ်အသင်း။

၁၈။ ဥဒါဟရဏ်=သိသာထင်ရှားစေရန် အကိုးအကားများနှင့် ဖော် ပြချက်။

၁၉။ တံလျှပ်/တံလှပ် = နေ၏အပူရှိန်ကြောင့် မြေပေါ်တွင် ရေပြင်ပမာ တလှုပ်လှုပ်

ပေါ်နေသော အရိပ်အယောင်။

၂၀။ အဇ္ဈော = ကောင်းကင်ပြင်။

## ကျက်မှတ်ရန် ဝေါဟာရ စကားလုံးများ

၁။ အဘိဇ္ဈာ  = မနာလိုခြင်း။

၂။ အရညဝါသီ = တောနေရဟန်း

၃။ အာဝါဟမင်္ဂလာ = သမီးဆောင်ယူခြင်း မင်္ဂလာ။

၄။ အာဝါဟဝိဝါဟ = သမီးပေး သမီးယူ မင်္ဂလာထိမ်းမြားလက်ထပ်ခြင်း၊

၅။ ဥဒါန်းတွင် = အစဉ်အလာ ပြောစမှတ်ပြုလောက်အောင် ထင်ထင်ရှားရှား ပေါ်ပေါက်ကျန်ရစ်သည်။

၆။ မုဒိတာ=သူတစ်ပါး ကောင်းကျိုးခံစားရသည်ကို ကြည်နူးဝမ်းသာခြင်း။

၇။ အာရုံခြောက်ပါး = အဆင်း၊ အသံ၊ အနံ့၊ အရသာ၊ အတွေ့၊ အတွေး။

၈။ ပရိဒေဝ = ပူဆွေးငိုကြွေးခြင်း။

၉။ ဝိရောဒိ = ဆန့်ကျင်ခြင်း။

၁၀။ ဝိဝါဒ=အငြင်းပွားမှု။ ငြင်းခုံမှု။

၁၁။ အဇ္ဈတ္တ=အတွင်း။

၁၂။ ဗဟိဒ္ဓ =ပြင်ပ။

၁၃။ အန္တိမ= နောက်ဆုံး။

၁၄။ ဘူမိနက်သန် = မြေကြန်လက္ခဏာ ညီညွတ်သော အောင်မြေ။

၁၅။ သဿမေဒခွန် = ဆယ်ခိုင့်တစ်ခိုင် ဖြစ်သော အခွန်တော်။

၁၆။ သံခိပ် =အကျဉ်းချုံးသောနည်းဖြင့် ရေးသောစာ။

၁၇။ ဗြဟ္မစိုရ် = မေတ္တာ၊ ကရုဏာ၊ မုဒိတာ၊ ဥပေက္ခာ ဟူသော တရား မြတ်လေးပါး။

၁၈။ ဘောဇဉ် =ထမင်း၊ မုန့်မှုန့်၊ မုယောမှုန့်၊ ငါး၊ အသား ဟူသော စားဖွယ်။

၁၉။ ခဲဖွယ် = ဘောဇဉ်ငါးပါးမှ အပဖြစ်သော စားဖွယ်။

၂၀။ ဟီရိဩတ္တပ္ပ = အရှက်အကြောက်တရား(မကောင်းမှုကိုပြုရန်ရှက်ခြင်းကြောက်ခြင်း)

၂၁။ အနိဋ္ဌာရုံ = နှစ်သက်လိုလားဖွယ် မရှိသော အာရုံ။

၂၂။ ဣဋ္ဌာရုံ = နှစ်သက်လိုလားအပ်သော အာရုံ။

၂၃။ ကုမ္မာရီ = အပျိုအရွယ် မိန်းခလေး။

၂၄။ အာဂန္တု = ဧည့်သည်။ အရပ်တစ်ပါးမှ ခေတ္တလာရောက်သူ။

၂၅။ အရိယာ =စင်ကြယ်သော အကျင့်ရှိသူ(မဂ်၊ ဖိုလ် ရပြီးသောပုဂ္ဂိုလ်)။

၂၆။ မဂ် = နိဗ္ဗာန်ရောက်ကြောင်းတရား။

၂၇။ ဖိုလ် = မဂ်၏အကျိုး

၂၈။ ရဟန္တာ = အရိယာလေးဆင့်တွင် စတုတ္ထအဆင့်၌တည်သော ပုဂ္ဂိုလ်။
ကိလေသာအာသဝေါ ကင်း၍ အပူဇော် ခံထိုက်သော ပုဂ္ဂိုလ်။